စင်္ကာပူနိုင်ငံတွင် အုပ်ရေ ၃၀၀၀၀၀ ကျော်ထုတ်ဝေခဲ့ရသော

တရုတ်၊ တမီးလ်၊ နီပေါ နှင့် အခြားဘာသာများစွာသို့ ပြန်ဆိုခဲ့ရသော



# GOOD QUESTION GOOD ANSWER

Ven. S. Dhammika

# ဗုဒ္ဓဓမ္မ ဆွေးနွေးချက်များ

ဒေါက်တာနန္ဒာဘာသ (ကာလကတ္တား)
မြန်မာပြန်သည်

ဒုတိယအကြိမ်

A bilingual edition အင်္ဂလိပ်-မြန်မာ နှစ်ဘာသာ

# Good Question Good Answer

**Ven. S. Dhammika**

# ဗုဒ္ဓဓမ္မ ဆွေးနွေးချက်များ

ဒေါက်တာ နန္ဒဘာသ (ကာလကတ္တား)

မြန်မာပြန်ဆိုသည်

ဗောဓိသုခပရဟိတကျောင်းတိုက်

**BODHISUKHA PARAHITA KYAUNG**

**Young Buddhist Student Literacy Mission Kathor,**
**P.O. Badu-700128,**
**P.S. Barasat, 24 Parganas (N) West Bengal, INDIA.**
**Tel & Fax; 0091-33-25263417**
**E-mail; ndbatha@gmail.com**

# ကွယ်လွန်သူ မိခင်ကြီးအား
# အထူးရည်ညွှန်းလျှက်

ဒေါက်တာ နန္ဒောဘာသ (ကာလကတ္တား)

# မာတိကာ



## Contents

## ဒုတိယအကြိမ် ထုတ်ဝေခြင်းအတွက် ဘာသာပြန်ဆိုသူ၏ အမှာ

မိမိတို့ ဗောဓိသုခပရိဟိတကျောင်းတိုက်အနေဖြင့် ဤစာအုပ်ငယ်အား နယူးဒေလီမြို့တွင် စက်တင်ပုံနှိပ်လျက် မွေ့ဒါနအဖြစ် သုံးကြိမ် ထုတ်ဝေ၊ ဖြန့်ချီခဲ့ပြီးနောက် မြန်မာ့ ဓမ္မစာဖတ်ပရိတ်သတ်များ ပိုမို ကျယ်ပြန့်စွာ ဖတ်ရှုခွင့်ရစေလိုသည့် ဆန္ဒဖြင့် ၂၀၀၆-ခုနှစ်တွင် ဓေါနစာပေမှ ပထမအကြိမ် ထုတ်ဝေခဲ့ပါသည်။ "မျက်မှောက်ခေတ် သိပ္ပံပညာ၏ လိုအပ်ချက်တွေကို အဖြေပေးနိုင်တဲ့ ဘာသာဟာ ဗုဒ္ဓဘာသာပဲ ဖြစ်တယ်" ဆိုသည့် အိုင်စတိုင်း၏ ကမ္ဘာကျော် စကားတခွန်းကြောင့်ပင် ဤစာအုပ်ကို ဘာသာပြန်ဖို့ရန် မိမိ အနေဖြင့် စိတ်ပိုင်းဖြတ်ခဲ့ခြင်း ဖြစ်သည်။ ဤစာအုပ်ငယ်ကို ရွေးချယ်ခဲ့စဉ်က မိမိ စိတ်ထဲမှ သိုသိပ်စွာ ချမှတ်ခဲ့သော သုံးသပ်၊ ဆုံးဖြတ်ချက်အား ပိုမို ပီပြင်၊ ရှန်းကြွစေသော ထူးခြားချက်တခုက ယခုနှစ်ပိုင်းအတွင်း ကမ္ဘာ့ဘာသာရေး လောကတွင် တိုက်တိုက်ဆိုင်ဆိုင် ဆိုသလို ပေါ်ထွက်လာခဲ့ပေသည်။ ယင်းမှာ ၂၀၀၇-ခုနှစ်တွင် ဂျိနီဗာအခြေစိုက် နိုင်ငံတကာ ဘာသာရေးနှင့် ဓမ္မတိုးတက်ရေးအဖွဲ့ကြီး (International Coalition for the Advancement of Rligious and Spirituality) (ICARUS) က ကမ္ဘာတဝှန်းလုံးရှိ (၃၈)မျိုးသော ဘာသာရေးများအနက် ဗုဒ္ဓဘာသာအား ကမ္ဘာ့ အမွန်မြတ်ဆုံးဘာသာအဖြစ် သတ်မှတ်ခံခဲ့ရခြင်း ဖြစ်သည်။ ထူးခြားသည်မှာ ဗုဒ္ဓဘာသာ မဟုတ်သော တခြားဘာသာဝင်များသည်ပင် မိမိတို့ သက်ဆိုင်ရာဘာသာကို မဲမပေးကြမူ၍ ဗုဒ္ဓဘာသာကိုသာ မဲပေးခဲ့ကြခြင်း ဖြစ်သည်။ ဤအောင်မြင်မှုသည်ပင် ဗုဒ္ဓဘာသာသည် ကမ္ဘာနှင့်၊ အဝှန်းလက်ခံသော ဘာသာဖြစ်လာလိမ့်ဦးမည်ဆိုသော အိုင်စတိုင်း၏ အဆို (သိဝရီ သဘောတရား) နှင့် လက်တွေ့ကျကျ ထိတွေ့သိမြင်၊ ဆင်ခြင်ခံစားနိုင်ခဲ့ကြသော ဆုရွေးချယ်ရေးအဖွဲ့၏ (ကိုယ်တွေ့ဒိဋ္ဌဓမ္မ) တို့အကြား အနီးစပ်ဆုံး ဆက်စပ်မှုနှင့် မျှတသော မှန်ကန်မှုပမာဏကို သာဓကဆောင်လိုက်ခြင်း ဖြစ်သည်ဟု ဆိုနိုင်ပါလိမ့်မည်။ ယခုနှစ်ပိုင်းတွင် မိမိတို့လက်ထဲ၌ စာအုပ်လက်ကျန် လုံးဝပြတ်လပ်နေခဲ့သည်။ စာဖတ်ပရိတ်သတ်ထဲမှ တောင်းဆိုမှုများအတွက် ပေးစရာတစ်အုပ်မျှ မရှိတော့၊ မိမိ ဘာသာပြန်ဆိုသော ဤဗုဒ္ဓဓမ္မ ဆွေးနွေးချက်စာအုပ်ကို တခြားဘာသာပြန်မှုတချို့နှင့် တိုက်ဆိုင်ဖတ်ရှုရပြီးနောက်တွင် မူလစာရေးဆရာကိုယ်တိုင် အထူးသဘောကျလွန်း၍ ဒေါ်ဘူနိုင်ငံတွင် ထပ်မံရိုက်နှိပ်ကာ ဓမ္မဒါန ဖြန့်ချီနေကြောင်းလည်း သိရှိလာရပေသည်။ ဓမ္မစာဖတ်ပရိတ်သတ်များ၏ ဆန္ဒကို ဖြည့်ဆည်းပေးလိုခြင်း၊ ဓမ္မရေးတွင် အမြင်ကျဉ်းပြီး၊ မိမိတို့ တစ်ဦး

ချင်းစီအနေဖြင့် ဗုဒ္ဓဘာသာဖြစ်ရခြင်းအပေါ်တွင် လက်ငင်းဒိဋ္ဌ အကျိုးရသည်အထိ အထိုက်အလျှောက် ပေါက်မြောက်ကြစေလိုသည့် စေတနာအရင်းဖြင့် ယခု ဒုတိယ အကြိမ်ကိုလည်း အိန္ဒိယနိုင်ငံ၊ နယူးဒေလီမြို့မှပင် ထပ်မံရိုက်နှိပ်၊ ဖြန့်ချိလိုက်ရခြင်း ဖြစ်ပါသည်။

မမ္မရသကို ခံစား၊ ထိတွေ့ခွင့်ရသည့် ငြိမ်းချမ်းသောဘဝများ တည်ဆောက်နိုင်နိုင်ကြပါစေ--

မေတ္တာဖြင့်---

ဒေါက်တာ နန္ဒောဘာသ (ကာလကတ္တား)၊ အိန္ဒိယနိုင်ငံ။

## ဘာသာပြန်ဆိုသူ၏ အမှာ

*နားထောင်၊ လေ့လာဖတ်ရှုမှုကြောင့် ဗဟုသုတတိုးပွား၏။ ဗဟုသုတကြောင့် အမြော်အမြင်၊ ဆင်ခြင်သုံးသပ်နိုင်စွမ်း (ပညာ) တိုးပွား၏။ ပညာ အမြော်အမြင်ကြောင့် အကျိုးအကြောင်း၊ အဆိုးအကောင်းကို သုံးသပ်ရွေးချယ်နိုင်သဖြင့် အမှန်တရားကို နားလည်သိမြင်ခွင့်ရ၏။ အမှန်တရားကို ကောင်းစွာ သိမြင်၊ ပေါက်မြောက်ပါမှ အဓိပ္ပါယ် ပြည့်ဝသော လူ့အဖြစ်၌ လောကအကျိုး၊ သံသရာအကျိုး နှစ်မျိုးလုံးတို့ကို လက်တွေ့ကျကျ ကြိုးစားရယူနိုင်ကြမည် ဖြစ်၏။*

အရာရာတွင် စူးစမ်းလေ့လာရခြင်း၌ ပျော်ပိုက်သော လူ့စရိုက်အမြုတေကြောင့် လူသည် ကျောက်ခေတ်မှသည် ယနေ့ အခြေအနေသို့တိုင်အောင် ချီတက်နိုင်ခဲ့ခြင်း ဖြစ်သည်။ မသိသေးလျှင် မေးမြန်းခြင်းဖြင့် တကယ်မသိကြောင်း ရိုးသားစွာ ဝန်ခံရာရောက်သည်။ ဖြေဆိုသူနှင့် မေးမြန်းသူအကြား အမြင်ချင်းပွင့်လင်းစွာ ဖလှယ်ကြရာမှတစ်ဆင့် အပြန်အလှန် နားလည်မှုဖြင့် အသိအမြင် ပွင့်လင်း၊ တိုးတက်မှုလည်း ရှိလာသည်။ ရင်းနှီး၊ နွေးထွေးမှုအပြည့်ဖြင့် ဝိုင်းဖွဲ့ဖြစ်ရာမှ ရရှိသည့် ရသမျိုးကို မည်သည့် ခေတ်မီပျော်ဖြေမှုနှင့်မျှ အစားမထိုးနိုင်သေးပါ။ စကားပြောခြင်းကြောင့် အလုပ်ပျက်ရသည့် အဆင့်ကို ရှုတ်ချတော်မူခဲ့သော်လည်း အပြစ်မဲ့၊ အကြောင်းအရာဖြစ်မှု ဓမ္မသာကစ္ဆာမင်္ဂလာအဖြစ် အားပေး၍ ဗုဒ္ဓ ကိုယ်တော်တိုင် ဦးဆောင်ပါဝင် ဆွေးနွေးတော်မူပါသေးသည်။ ဗုဒ္ဓစာပေ ထွန်းကားသော မြန်မာ့လူ့ဘောင်တွင် ဓမ္မစာဖတ်ပရိသတ်သည် မိလိန္ဒပဉှာ၊ စွယ်စုံကျော်ထင်နှင့် သတပတိကပုစ္ဆာစသည့် ဓမ္မရေးအမေး၊ အဖြေကျမ်းကြီး၊ ကျမ်းခိုင်များမှသည် မျက်မှောက်ခေတ် ဘာသာရေးမဂ္ဂဇင်း၊ စာစောင်များတွင် ပါဝင်လေ့ရှိသည့် ဘာသာ၊ သာသနာရေး ဆွေးနွေး၊ မေးမြန်းချက်များနှင့်အထိ ရင်းနှီး၊ နီးစပ်ကြပြီး ဖြစ်သည်။ ယင်းတို့၌ပါဝင်သည့် အပိုင်အနိုင်ဖြေဆိုချက်များ ထက်မြက်သည့် တွေးခေါ်ပုံများ၊ ပြဿနာတစ်ရပ်သို့ ချဉ်းကပ်ပုံ ရှုထောင့်များသည် ဗုဒ္ဓဘာသာဝင်တို့၏ စကားဝိုင်းတွင်သာမက ရင်ထဲ၊ နှလုံးထဲ၌ပါ စွဲမြဲနေရာယူထားပြီးလည်း ဖြစ်သည်။ ဤအပြုသဘော တိုးတက်မှုများသည် ဂန္ထဝင်မြောက်သလို ဘဝဆန်သည့် အတွက်ကြောင့်လည်း ဤမျှအထိ နေရာရနေခြင်းဖြစ်သည်ဟု ဆိုနိုင်ပါသည်။ ခေတ်အဆက်ဆက်တွင် လူ့ဘဝ၏ ထောင့်အသီးသီးတို့မှ ပေါ်ထွက်လာသည့် စူးစမ်းမှု အမျိုးမျိုးတို့နှင့် ယင်းတို့အပေါ် ဖြေဆို၊ ဆွေးနွေးချက်များကို မှတ်တမ်းတင်ဖြစ်သဖြင့် ကျမ်းဝင်၊ စာမြောက်သည့်အဆင့်သို့ ရောက်သည့်အခါ လူအများ ဖတ်ရှုခွင့်ရကြခြင်း ဖြစ်သည်။ မှတ်တမ်းမတင်လိုက်ရ၍ စာအဖြစ် မကြွင်းရစ်သော်ငြားလည်း ခဲရာခဲဆစ် ဖြေဆိုခဲ့ကြရသော၊ လူ့အကျိုးကို သယ်ပိုးနိုင်ပါလျက် ပျောက်ချက်

နာခဲ့ရသော အတွေးအမြင်၊ ရတနာများကား မရေမတွက်နိုင်အောင်ပင် ရှိပါလိမ့်ဦးမည်။ ယေဘုယျအားဖြင့် စူးစမ်းတတ်သည့် လူသည် တစ်ခါတစ်ရံတွင်မူ အလေးအနက် တွေးခေါ်ရသည့်အလုပ်ကို အပျင်းဆုံးသော သတ္တဝါလည်းဖြစ်၏။ အထူးသဖြင့် ယနေ့ခေတ်လို နေရာတကာ၌ သုတ်သုတ်သွား၊ သုတ်သုတ်စားရသည့် ခေတ်မျိုးတွင် လူများစု၏ ခေါင်းထဲ၌ အဖြေမဲ့ မေးခွန်းများနှင့် အလုပ်မဖြစ်သော ဖြေရှင်းချက်များကသာ ကြီးစိုးနေတတ်ပါသည်။ မသိတာကို မေးမနေနိုင်၊ မရှိတာအတွက် ပြေးလွှား၊ ရုန်းကန်နေကြရသည်။ ခေါင်းအေးအေးနှင့် တွေးခွင့်၊ မေးခွင့်ရသူက နည်းပါးပြီး အချိန်မရလို့ သေဖို့တောင် မအားလပ်သေး၍သာ အသက်ရှင်နေကြရသည့် လူ့အဖွဲ့အစည်းကြီးမျိုး ဖြစ်မှန်းမသိ ဖြစ်လာနေပါပြီ။

အမှန်က ယနေ့လို ခေတ်မျိုးမှာ လောကီဘက်မှာရော၊ လောကုတ္တရာဘက်မှာပါ တွေးစရာ၊ မေးစရာ၊ ဆွေးနွေးမေးမြန်းစရာတွေ အရင်ကထက် ပိုလာသည်။ ဘာသာတရားတိုင်းလိုလိုသည် ၂၁-ရာစု ခေတ်သစ်တွင် စိန်ခေါ်မှု အသစ်များနှင့် ရင်ဆိုင်ကြရဦးမည်လည်း ဖြစ်သည်။ ခေတ်၏ တောင်းဆိုမှုနှင့် ကာလ၊ ဒေသ၊ ပုဂ္ဂလအခြေအနေများအရ နောက်ထပ် ဆွေးနွေး၊ မေးမြန်းစရာအချက်များသည် ဗုဒ္ဓဘာသာလောကတွင်လည်း အများအပြား ပေါ်ထွက်ပြီး၊ ပေါ်ထွက်လာဆဲဖြစ်သလို နောင်တွင်လည်း များစွာပင် ပေါ်ထွက်လာဖွယ်ရာ ရှိပါသည်။ ယင်းမေးခွန်းပေါင်းများစွာအတွက် ဖြေရှင်းချက်များစွာလည်း လိုအပ်လာမည်သာ ဖြစ်ပါသည်။ ဗုဒ္ဓဓမ္မ ဆွေးနွေးချက်များအမည်ဖြင့် ယခု မိမိ မြန်မာပြန်ဆိုလိုက်သည့် **Good Question Good Answer** စာအုပ်ငယ်သည် ဤလိုအပ်ချက်များနှင့်အညီ ပေါ်ထွက်လာသော စာအုပ်များအနက် တစ်အုပ်အပါအဝင် ဖြစ်ပါသည်။ ဤစာအုပ်ငယ်ကို ခေတ်သစ် မိလိန္ဒပဉှာအဖြစ် ကင်ပွန်းတပ်၍ မဖြစ်နိုင်သော်ငြားလည်း ဗုဒ္ဓတရားတော်၏ မူလနက်နဲကျစ်လျစ်မှုအပေါ် ခေတ်ကာလနှင့်အညီ ပေါ်ထွက်လာသည့် ဗုဒ္ဓဓမ္မဆိုင်ရာ အရေးပါသော ခရာခဲဆစ်၊ မေးမြန်းဆွေးနွေးချက်များနှင့် ပညာရှင် (ဝါ) ရဟန်းတော်များအတွက် မပြောပလောက်သော်လည်း လူသာမန်တို့အတွက် အဖြေမထွက်နိုင်သည့် အချက်အလက် အတော်များများ ဤစာအုပ်ငယ်ထဲတွင် ပါဝင်ပါသည်။

အဆိုပါ မေးခွန်းများကို ဖြေဆိုရာတွင် မူရင်းစာအုပ်ပြုစုသူ ဆရာတော် အရှင်ဓမ္မိကသည် နိုင်ငံတကာမှ ဗုဒ္ဓဘာသာဝင်များ၊ ဗုဒ္ဓဘာသာဝင်မဟုတ်သော်လည်း ဗုဒ္ဓဘာသာကို အထူးစိတ်ပါဝင်စားစွာ လေ့လာနေသူများ သဘောပေါက် လက်ခံနိုင်လောက်အောင် ပိုင်နိုင်ကျွမ်းကျင်စွာ ဖြေဆိုထားသည်ကို တွေ့မြင်နိုင်ပါသည်။ ဤဖြေဆိုချက်များသည် အလားတူ မေးလာနိုင်သည့်၊ မေးလည်း၊ မေးဖို့ရန် လိုအပ်နေဦးမည့် အချက်အလက်များစွာတို့အတွက်လည်း လမ်းခင်းပေးထားသလို ဖြစ်နေပါသည်။ ဤကဲ့သို့သော ကောင်းခြင်းဂုဏ်ရည်တို့ကြောင့်လည်း ဤစာအုပ်ငယ်ကို နိုင်ငံတကာမှ ဗုဒ္ဓဘာသာ

စာဖတ်ပရိတ်သတ်လောကတွင် လူကြိုက်များ၍ ယနေ့အထိ ဘာသာရပ်များစွာဖြင့် ပြန်ဆိုထားကြပြီးလည်း ဖြစ်ပါသည်။ မိမိအနေနှင့် ဆရာတော် အရှင်ဓမ္မိကအား လူကိုယ်တိုင် ရင်းနှီး၊ သိကျွမ်းဖူးခြင်း မရှိသေးသော်လည်း ဆရာတော်ပြုစုသည့် ဓမ္မရေးရာစာအုပ်တစ်ချို့ကို ဖတ်ရှုခြင်းဖြင့် ရင်းနှီးပြီးသားလို ဖြစ်နေပါသည်။ ဆရာတော်၏ **Encounters of Buddhism, Buddha Vcana, Gemstones of the Good Dhamma** နှင့် **All About Buddhism** စသည့် စာအုပ်များအပြင် **Middle Land Middle Way - A Pilgrims' Guide to the Buddha's India** စာအုပ်ဆိုလျှင် အိန္ဒိယနှင့်၊ နီပေါနိုင်ငံများရှိ ဗုဒ္ဓဘာသာဆိုင်ရာ အဓိကရနေရာတော်များ သမိုင်းကြောင်းနှင့် ပတ်သက်၍ စေ့စုံစွာ တင်ပြထားပုံကို သဘောကျလှသဖြင့် မိမိတို့ကျောင်းတိုက်မှ ပြုစုထုတ်ဝေသည့် "မဇ္ဈိမဒေသ" ဗုဒ္ဓနေရာတော်များဆိုင်ရာ သမိုင်းအကျဉ်း စာအုပ်ငယ်အတွက် အဓိက မှီငြမ်းခဲ့ကြသော စာအုပ်လည်း ဖြစ်ပါသည်။ ဆရာတော် အရှင်ဓမ္မိကသည် ထင်ရှားသည့် ကျမ်းပြုဆရာ၊ စာရေးဆရာ၊ တက္ကသိုလ်ဆရာတစ်ဦးဖြစ်သည့်အပြင် ၄င်းသီတင်းသုံးနေထိုင်ရာ ဩစတြေးလီးယားနိုင်ငံရှိ တက္ကသိုလ်အသီးသီးနှင့် ရေဒီယို၊ တီဗွီစသည့် မီဒီယာများတွင် ဗုဒ္ဓဓမ္မအပြင် အာရှတိုက်ဆိုင်ရာ ဘာသာရေး၊ တရားတော်များကို ဟောပြော၊ ပို့ချနေသူလည်း ဖြစ်သည်။ ယခုဆိုလျှင် အင်တာနက်ပေါ်တွင်လည်း ဆရာတော်၏ စာအုပ်များကို လေ့လာ၊ ဖတ်ရှုခွင့် ရနေကြပါပြီ။

*ကိုယ်လက်အင်္ဂါနှင့် ယှဉ်လာလျှင် စီးပွားဥစ္စာကို စွန့်လွှတ်ရာ၏။*
*အသက်နှင့် ယှဉ်လာလျှင် ကိုယ်လက်အင်္ဂါ၊ စီးပွားဥစ္စာတို့ကို စွန့်လွှတ်ရာ၏။*
*ဓမ္မနှင့် ယှဉ်လာလျှင်ကား အသက်ကိုပင် စွန့်လွှတ်ရာ၏။ (ဝိသုဒ္ဓိမဂ်)*

လူသားတစ်ဦးအတွက် ဘဝတွင် အရေးပါဆုံးဟု သတ်မှတ်ထိုက်သော အရာသည် ကိုယ်စိတ်နှစ်ပါး ကျန်းမာပျော်ရွှင်ရေး၊ တရားနှင့်အညီ ကျင့်သုံးနေထိုင်တတ်ရေး၊ နောက်ဆုံး သံသရာဝဋ်မှ အပြီးသတ်၊ လွတ်မြောက်ရေးတို့ပင် ဖြစ်ကြပါသည်။ ဤအရေးအရာများကို ကောင်းစွာဖြည့်ဆည်းပေးနိုင်သည့် (သို့မဟုတ်) တစ်ဘက်တစ်လမ်းမှ ဖြည့်ဆည်း၊ ထောက်ကူပေးနိုင်သည့် ဓမ္မအရေး ဆွေးနွေး၊ လေ့လာခြင်းများသည် မဖြစ်မနေ လုပ်ဆောင်အပ်သည့် လူ့အကျိုးပြု လုပ်ရပ်တစ်ခုပင် ဖြစ်သည်ဟု ယုံကြည်မိပါသည်။

ဓမ္မရသကို အပြည့်အဝ ရယူခံစားနိုင်ကြပါစေ။

ဒေါက်တာ နန္ဒောဘာသ (ကာလကတ္တား)
အောက်တိုဘာ ၂၇ ရက်၊ ၂၀၀၂-ခုနှစ်

## (မိတ်ဆက်နိဒါန်း)
## ခေတ်ကို ဦးဆောင်ဦးမည့် ဗုဒ္ဓဒဿန

ယနေ့ သတင်းဆက်သွယ်ရေး နည်းပညာခေတ်တွင် တစ်ကမ္ဘာလုံး သိမ်းကျုံးခြင်း **(Globalisation)** ဟူ၍ ပေါ်လာသည်။ အာကာသထဲသို့ ခြေဆန့်နိုင်ပြီး ဖြစ်၍ ကမ္ဘာ့ မည်သည့်နေရာ၌မဆို တစ်စုံတစ်ရာ ဖြစ်ပွားနေဆဲမှာပင် တိုက်ရိုက်ဆက်သွယ်၊ ကြားမြင်လို့ ရနေပါပြီ။ လူ့ နေမှု၊ ထိုင်မှုကိစ္စရပ်တိုင်းတွင် သိပ္ပံတီထွင်မှု တစ်ခုမဟုတ် တစ်ခုနှင့် တစ်နည်းနည်းအားဖြင့် မဆက်နွှယ်သည့်အရာဟူ၍ မရှိသလောက်ပင်။ လွန်ခဲ့သော နှစ်ပေါင်း (၃၀၀) ခန့်က စတင်ခဲ့သည့် သိပ္ပံတိုးတက်ပြောင်းလဲမှု ဖြစ်စဉ်သည် ယနေ့ခေတ်အထိ တစ်ဟုန်ထိုး၊ ဆက်တိုက် ပြေးလွှားလာခဲ့သည်။ လက်ရှိ ဖြစ်ပေါ်၊ တိုးတက်မှုများ၏ အဆင့်ကိုကြည့်လျှင် အဆုံးစွန်အထိ ရောက်နေပြီလားဟုပင် ထင်စရာဖြစ်သော်လည်း စင်စစ် မြစ်ရေ၏ အလျဉ်ကဲ့သို့ မိနစ်စက္ကန့်နှင့်အမျှ ရှေးသို့ချည်း ဒလစပ် ချီတက်၊ ပြေးလွှားနေခြင်းသာ ဖြစ်သည်။ တီထွင်၊ ဆန်းသစ်မှုခေတ်၏ ရေစီးသည် ထုံးတမ်းစဉ်လာ ကိုးကွယ်၊ ယုံကြည်မှုကမ်းပါးကို ပထမ ရိုက်ခတ်သည်။ ဘာသာရေးအယူဝါဒ အတော်များများတို့သည် သိပ္ပံလှိုင်း၏ ရိုက်ချက်၊ ပြင်းအားကြောင့် ပြိုကွဲကြရသည်။ တိုးတက်သည့် အမြင်ရှိသူများ၊ ပညာတတ်အလွှာများက ယင်းတို့ကို လက်မခံကြတော့ပေ။ ယုတ္တိပြသမှု လောက်တွင်သာ လမ်းဆုံးနေကြသည့် ရှေးရည်စိမ် သစ္စာတရားမျိုးနှင့် သိပ္ပံနည်းမကျသော စာအုပ်ကြီးဆန်သည့် ဘာသာတရားတို့ကား ရေရှည်တွင် ယိုင်လဲကုန်ကြသည်။ ဥပမာအဖြစ်ပြရလျှင် – ရုပ်အစုအဝေး (ရုပ်ကလာပ်) ဟု ထင်မြင်ရသည့် လူ့စိတ်ဝိညာဉ်သည် ဘာသာတစ်ချို့က ဟောပြောနေကြသည့်အတိုင်း တည်မြဲသော ဝိညာဉ်တစ်ခုအနေနှင့် တကယ်တည်ရှိသည့် အရာမဟုတ်ပေ။ သဘာဝနိယာမများနှင့်အညီ၊ ကြောင်းကျိုး၊ အခြေခံတရားများနှင့်အညီ အချိုးကျကျ လှုပ်ရှားဖြစ်တည်နေသည့် သဘောတရားမျှသာ ဖြစ်ကြောင်း ခေတ်သစ်သိပ္ပံ၊ စိတ်ပညာရှင်များက ဖော်ထုတ်၊ ပြထားကြပြီး ဖြစ်သည်။ အလားတူပင် သိပ္ပံဆိုင်ရာတွေ့ရှိမှုများ၏ ကျေးဇူးကြောင့် စကြာဝဠာကြီး ဖွဲ့စည်းတည်ရှိပုံ၊ လူသား၏ ဘဝ ဆင့်ကဲဆင့်ကဲဖြစ်ပေါ်၊ တိုးတက်လာပုံတို့နှင့် ပတ်သက်၍ ဘာသာတရားများစွာတို့က ခေတ်အဆက်ဆက် စွဲကိုင်လာခဲ့သည့် အစွန်းရောက် အယူအဆများသည် စင်စစ် ရိုးရာစဉ်လာ တွေးတောချက်မျှသာ ဖြစ်ကြောင်း သဘောပေါက်ခွင့် ရလာကြသည်။ မည်သို့ပင်ဖြစ်စေ ဘာသာတရားများသည် လူ့ဘောင်တိုးတက်၊ ဖွံ့ဖြိုးရေးအတွက် များစွာ အကျိုးဆောင်လာခဲ့ကြသည်ဟုကား ဆိုနိုင်ပါသည်။ အနှီဘာသာတရားများကပင် လူ့ဘဝကို လမ်းညွှန်မှုများစွာ ပေးခဲ့ကြသည်။ အလေးထားအပ်သည့် လူ့အဆင့် 'စံ'

များနှင့် တန်ဘိုးများကို သတ်မှတ်ပေးခဲ့ကြသည်၊ ထိုသို့ကောင်းမွန်သည့် လူ့ အကျိုးပြု လုပ်ငန်းများကို ဘာသာတရားများက ပြုလုပ်နိုင်ခဲ့သည်မှန်သော်လည်း ဘာသာရေး အစွန်းရောက်တစ်ချို့သည် သက်ဆိုင်ရာ ဘာသာတရားများ၏ မူလအဓိပ္ပါယ်များမှ သွေဖည်လျှက် အဓိပ္ပါယ်မဲ့ ကျင့်စဉ်များကို လိုသလိုဖွဲ့ယူပြီး လူအများစုကို လမ်းမှားသို့ ညွှန်ပြခဲ့ကြပေသည်၊ သူတပါးအသက်ကို သတ်ရာ၌ သတ်သူရော အသတ်ခံရသူပါ၊ ကောင်းကင်ဘုံသို့ ရောက်သည်၊ ဤနည်းဖြင့် ငရဲဘုံသို့ လူအများ မရောက်ရလေအောင် ကာကွယ်ပြီးသား ဖြစ်သည်ဟူပင် ပြောပြောလာကြသည်၊ ဤမျှအထိ အစွန်းရောက်၊ လွဲမှားသည့်တရားမျိုးကို ဘာသာရေး၊ နိုင်ငံရေး၊ စီးပွားရေးနှင့် စစ်ရေးလိုအပ်ချက်များ အတွက် လိုအပ်သလို အသုံးချပြီး ဝါဒဖြန့်ကြသည်၊ တကယ့်လက်တွေ့တွင်လည်း ထိုအတိုင်းပင် လက်ခံ၊ ကျင့်သုံးလာကြပြီဆိုသည်ကို ကမ္ဘာ့သတင်း၊ မီဒီယာလောကတွင် သွေးဖြင်းဖြင်းနီနေသည့်ဖြစ်ရပ်များ ရက်ဆက်ဆိုသလို သာဓကဆောင်နေပြီး ဖြစ်ပါသည်၊ အမှန်တရားကို ယင်းတို့၏ ဝါဒရေးရာ အကျဉ်းထောင်များထဲ၌ ထာဝရ မှောင်တိုက်ပိတ် အကျဉ်းချထားကြသဖြင့် ယခုလို သိပ္ပံခေတ်တွင် ဘာသာရေးယဉ်ကျေးမှု သက်ဆိုးရှည်ရာ အကြောင်း မရှိတော့ပေ၊

**ဗုဒ္ဓဝါဒနှင့် သိပ္ပံ။** ။ လွန်ခဲ့သည့် နှစ်-၁၅၀ မတိုင်မီကအထိ ခေတ်သစ် သိပ္ပံပညာ မထွန်းကားသေးသည့် တိုင်းပြည်တစ်ချို့တွင်သာ ဗုဒ္ဓဘာသာ ထွန်းကားနေခဲ့သည်၊ သို့ရာတွင် ဗုဒ္ဓဝါဒ၏ လွတ်လပ်စွာ တွေးခေါ်၊ ဆုံးဖြတ်ပိုင်ခွင့်ရှိသည့် အချက်က မူလကတည်းက သိပ္ပံဆိုင်ရာ မြော်မြင်မှုများကို လမ်းဖွင့်၊ နေရာပေးထားသလို ဖြစ်နေသည်၊ သိပ္ပံနည်းအရ ဗုဒ္ဓဝါဒကို အလွယ်နှင့် လက်သင့်ခံနိုင်သည့်အကြောင်း တစ်ချက်မှာ- ဗုဒ္ဓဝါဒ၌ တင်းကျပ်သေးသိမ်သည့် အယူအဆများအတွက် လုံးဝ နေရာပေးထားခြင်းမရှိဘဲ သဘာဝထားပျော့ပျောင်းမှုနှင့် လွတ်လပ်စွာ တွေးခေါ်နိုင်မှုတို့ကို အဓိက ထားသည်၊ သို့ဖြစ်၍ မျက်ကန်းယုံကြည်ရမှု သို့မဟုတ် ဘုရားဝန်ထင်မှုဆိုသည့် အနေမျိုးနှင့် လုံးဝ ဆက်စပ်မှု မရှိကြောင်း သိသာနိုင်ပေသည်၊ နောက်အကြောင်း တစ်ချက်မှာ- ပရမတ် သဘာဝတရားအပေါ် ဗုဒ္ဓ၏ ချဉ်းကပ်ရှုမြင်ပုံ သိပ္ပံနည်းကျခြင်း ဖြစ်သည်၊ ဗုဒ္ဓ၏ သဘာဝတရား ရှာဖွေပုံသည် ခေတ်သစ် သိပ္ပံပညာရှင်တို့၏ စမ်းသပ်လုပ်ကိုင်ပုံနှင့် များစွာ တူညီလေသည်၊ သိပ္ပံပညာရှင်သည် အပြင်လောက၏ သဘာဝအရင်းအမြစ်များကို သမာသမတ်ကျကျ လေ့လာဆန်းစစ်သည်၊ လက်တွေ့စမ်းသပ်မှုများကို အကြိမ်ကြိမ် အောင်မြင်စွာ တည်ဆောက်ပြီးမှသာ သီအိုရီများကို ချမှတ်သည်၊ ဗုဒ္ဓသည် လွန်ခဲ့သည့်နှစ် ၂၅၀၀-ကျော်က မိမိ ကိုယ်တွင်း ရုပ်နာမ်တရားများကို နိုက်နိုက်ချွတ်ချွတ် စူးစမ်းဆိတ်ဖြာ၊ လေ့လာတော်မူခဲ့သည်၊ မှန်ကန်ကြောင်း မိမိ ကိုယ်တိုင်ကိုယ်ကျ ကောင်းစွာ လေ့လာ၊ သိမြင်ရခြင်း

မရှိသေးသမျှ မည်သည့်အယူ၊ အစကိုမျှ လက်မခံကြသေးရန် တပည့်သားတကာများအား သွန်သင်တော်မူခဲ့သည်။ ယနေ့ခေတ် သိပ္ပံပညာရှင်သည် ၎င်း၏ တွေ့ရှိရမှုမျိုးကို အခြား တစ်ဦးဦးက အလားတူမတွေ့ရှိနိုင်ဟု မဆိုသလို ဗုဒ္ဓတရားတော်ကို ထိုးထွင်း၊ သိမြင်နိုင် စွမ်းသည် သူ တစ်ဦးတည်းအတွက် မဟုတ်ကြောင်း အကြိမ်များစွာ သက်သေထူတော်မူခဲ့ ပေသည်။ ဤသို့လျှင် အချက်အလက်များစွာတို့၌ တူညီ၊ နီးစပ်သော်လည်း ဗုဒ္ဓဝါဒနှင့် သိပ္ပံကိုတစ်တန်းစားတည်းဖြစ်သည်ဟူ၍ကား မဆိုနိုင်ပေ။ သိပ္ပံပညာကိုလက်တွေ့ကျကျ ဖူးဖိုက်လေ့လာ၊ လိုက်စားမှုကြောင့် လူသားသည် ပိုမိုကောင်းမွန်ပြီး သက်တောင့်သက်သာ အသက်ရှင်နေထိုင် လုပ်ကိုင် သွားလာနိုင်ပြီး ယခင် ယခင်ခေတ်များက အိပ်မက်ထဲတွင်မျှ မမြင်မက်ဖူးသေးသည့် အံ့မခန်းအရာများကိုပင် တီထွင်၊ သုံးစွဲလာနိုင်ပြီဖြစ်သည်ကို အထူး ပြောစရာ မလိုပေ။ လူသည် ငါးထက် ရေကြောင်းသာပြီး၊ ငှက်ထက် အမြင့်ပျံနိုင် သဖြင့် လပေါ်မှာပင် ခြေတင်၊ လျှောက်နိုင်ခဲ့ပါပြီ။ လူ့ပုံမှန်အသိက ထုံးတမ်းစဉ်လာ (ပုံစံကျ) အသိမျှသာ ဖြစ်သော်ငြားလည်း သိပ္ပံအသိက လက်တွေ့အထောက်အထားများကိုသာ ယုံကြည်သည်။ ယခုခေတ်တွင်မူ လက်တွေ့မကျသမျှကို ငြင်းပယ်လာခဲ့ကြသည့် သိပ္ပံ ကဝိများ ကိုယ်တိုင်က လက်တွေ့မမြင်ရသည့်အရာကိုပင် ယုတ္တိရှိလျှင် လက်ခံရမည်ဟု ဆိုလာကြပါပြီ။ သို့ရာတွင် လူ့စိတ်ကိုထိန်းချုပ်နိုင်စွမ်းရှိလာအောင်ကား သိပ္ပံက လုပ်မ ပေးနိုင်၊ ကိုယ်ကျင့်တရားပိုင်းဆိုင်ရာနှင့်၊ ဘဝဦးတည်ချက်ဆိုင်ရာတို့တွင်လည်း သိပ္ပံက လူကိုကောင်းမွန်၊ တိုးတက်လာအောင် လုပ်မပေးနိုင်သေးချေ။ သိပ္ပံ၏ အောင်မြင်မှုများမှာ အံ့မခန်းဟု ဆိုနိုင်သော်ငြားလည်း ဗုဒ္ဓဝါဒက အလွယ်နှင့်ပြုလုပ်၊ ကျော်ဖြတ်၊ အောင်နိုင် သည့်အရာများတွင် သိပ္ပံအဖို့ အကန့်အသတ်ရှိဆဲပင် ဖြစ်သည်။

**သိပ္ပံ၏ အားနည်းချက်များ။** ။သိပ္ပံဆိုင်ရာ အသိပညာ(ဗဟုသုတ) ကို မျက်စိ၊ နား၊ နှာခေါင်း၊ လျှာ၊ ကိုယ်ဟူသော အာရုံခံအင်္ဂါများမှ တစ်ဆင့်ရရှိသည့် အာရုံ သိစိတ်ဖြင့် ဘောင်ခတ်ထားသည်။ အာရုံသိ ထက် သာလွန်သည့် တကယ့်ဖြစ်တည်မှုအဆင့်သို့ကား မရောက်ပေ။ သိပ္ပံနည်းကျ သစ္စာ ကိုဒလယ် ဖြစ်ပေါ်နေသော အာရုံသိများကို ယုတ္တိနည်းကျ သုံးသပ်ဆင်ခြင်ခြင်းဖြင့် တည် ဆောက်သည်။ ထို့ကြောင့် သိပ္ပံသိသစ္စာသည် တစ်ဆင့်ခံ အမှန်တရားသာ ဖြစ်သည်။ အချိန်၏ စမ်းသပ်မှုကိုခံနိုင်ရည်ရှိစေရန် ပဓာန မပြုပေ။ ထို့ကြောင့်လည်း ဤအားနည်း ချက်ကို သဘောပေါက်ထားသူ သိပ္ပံပညာရှင် တစ်ဦးအနေဖြင့် သီဝရီတစ်ခုကို ထို့ထက် ပိုမို ကောင်းမွန်သည့်အဆင့်ဖြင့် အစားထိုးနိုင်မည်ဆိုပါက မူလကောက်ချက်ကို စွန့်လွှတ်ရန် အဆင်သင့်ဖြစ်နေပေသည်။ သိပ္ပံပညာသည် အပြင်လောကကိုချည်းသာ နားလည်ရန် ကြိုးစားပြီး လူ၏ အတွင်းပိုင်း (လူ့စိတ်) ကိုမူ လုံးဝနီးပါး လျစ်လျူရှုထားလေသည်။ စိတ်

ပညာဆိုင်ရာ သိပ္ပံဘာသာရပ်ကပင် လူ့စိတ်လှုပ်ရှားမှု၏ အခြေခံ အကြောင်းတရားနှင့် ပတ်သက်၍ နက်နက်ရှိုင်းရှိုင်း ရှိလှသည် မဟုတ်ပေ။ လူတစ်ဦး စိတ်ဓါတ်ကျပြီး အတွင်းစိတ် ကစဉ့်ကလျားဖြစ်နေသည့် အခြေအနေတွင် ယနေ့ သိပ္ပံက တစ်စုံတစ်ရာ ဖြေသိမ့်ပေး နိုင်စွမ်းပင် မရှိပါ။ လူ့သဘာဝ ပတ်ဝန်းကျင်ဆိုင်ရာ လူမှုဗေဒသိပ္ပံက ပျော်ရွှင်မှုကို အဝိုင်း အတာတစ်ခုအထိ ဆောင်ကြဉ်းပေးကောင်း၊ ပေးနိုင်မည်ဖြစ်သော်လည်း လူသည် တိရိစ္ဆာန်နှင့် မတူညီသည့်အတွက် ရုပ်ပိုင်းဆိုင်ရာ ပျော်ရွှင်ကြည်နူးရမှု သက်သက်ဖြင့်ကား နေ၍ မဖြစ်နိုင်ပေ။ နေ့စဉ် တွေ့ကြုံဖြတ်သန်းနေရသော ဘဝပေး အခြေအနေအမျိုးမျိုးမှ ပေါ်ထွက်လာသည့် စိတ်ဓါတ်ညှိုးငယ်မှု၊ စိုးရိမ်ပူပန်မှုများကို ပယ်ဖျောက်နိုင်ရန် ပံ့ပိုး၊ ကူညီ ပေးမှုမျိုး လိုအပ်ပေသည်။ ယနေ့ကာလတွင် လူများစွာတို့သည် တစ်စုံတစ်ရာကို စိုးရွံ့မှု၊ စိတ်မငြိမ်သက်မှုနှင့်၊ မလုံမလဲဖြစ်မှုစသည့် စိတ်ပိုင်းအားနည်း၊ ချို့ယွင်းမှုများကို ခံစားလျက် ရှိကြသည်။ သိပ္ပံက ယင်းတို့အတွက် ထည့်သွင်းစဉ်းစားရန် ပျက်ကွက်နေဆဲ ဖြစ်သည်။ သားရဲတိရိစ္ဆာန်တစ်ကောင်လို စိတ်ရူးပေါက်နေသူတစ်ဦးအား စိတ်ထိန်းချုပ်ရန် သိပ္ပံက သွန်သင်ပေးနိုင်စွမ်း မရှိပါ။ ပြီးခဲ့သည့် နှစ် ၅၀–လောက်ကတည်းက သိပ္ပံပညာစွမ်းပကားဖြင့် ဖွံ့ဖြိုးပြီးအဆင့် ရောက်နေပြီးဖြစ်သည့် တိုင်းပြည်များတွင် ယနေ့တိုင် အကြမ်းဖက်မှုနှင့်၊ အကျင့်ပျက်မှုများ ထူပြောနေဆဲ ဖြစ်သည်။ သိပ္ပံဖြင့် လူကို ပိုမို ကောင်းမွန်သူဖြစ်လာ အောင် မလုပ်နိုင်ဆိုသည့် သာဓကပင် ဖြစ်သည်။ သိပ္ပံပညာအရ အစွမ်းကုန် တိုးတက် သည့် အဆင့်သို့ ရောက်ရှိပြီး ယင်း၏ အကျိုးကျေးဇူး၊ အသီးအပွင့်များကိုလည်း လူသည် အပြည့်အဝ ရယူခံစားနိုင်ပြီဟု ဆိုနိုင်သော်ငြားလည်း အခြေခံအားဖြင့် အတွင်းပိုင်း၌ တစ်စုံတစ်ရာပြောင်းလဲမှု မရှိသူ (လူ့ဗာလာန်) အဖြစ်ကိုသာ သိပ္ပံက အမွေအဖြစ် ချန် ထားရစ်လေသည်။

စင်စစ် သိပ္ပံသည် လူ၏မရောင့်ရဲနိုင်မှုနှင့်၊ အချောင်ခိုလိုစိတ်တို့ကိုသာ တိုးပွား စေပါသည်။ လူ့ အသိုက်အမြုံတစ်ခုလုံးနှင့် လူတစ်ဦးချင်းစီအတွက်ပါ လုံခြုံရေးကို ဆောင် ရွက်ပေးရန် လစ်ဟင်းသည့် သိပ္ပံ၏ တာဝန်မဲ့မှုကြောင့် အစုလိုက်အပြုံလိုက် သေကြေ ပျက်စီးရမှု ကပ်ဘေးကြီးများ ကျရောက်နိုင်ခြေရှိသည့် ကမ္ဘာ့လူသားများအဖို့ လုံခြုံမှုကင်း မဲ့သလို ခံစားရမှုမျိုးကိုပင် ဖြစ်ပေါ်စေပါသည်။

ခြုံ၍ဆိုရလျှင် လူသားသည် အဓိပ္ပါယ်ပြည့်ဝသော ဘဝကို သိပ္ပံနည်းဖြင့် မတည် ဆောက်နိုင်၊ အသက်ရှင်၊ ရပ်တည်ရေးအတွက် နိုင်မာသည့် ဦးတည်ချက်များကို သိပ္ပံက မပေးစွမ်းနိုင်ပေ။ စင်စစ် သိပ္ပံဟူသည် သဘာဝအားဖြင့် လောကီကိစ္စ သက်သက်သာ ဖြစ်ပြီး စိတ်ပိုင်းငြိမ်းချမ်း၊ လွတ်လပ်ရေး (လောကုတ္တရာ) အကျိုး မပါဝင်ပေ။ သိပ္ပံ၏ တွေးခေါ် မှုထဲတွင် အပါအဝင်ဖြစ်သည့် ရုပ်ဝါဒက ရုပ်ပိုင်းဆိုင်ရာ သာယာခံစားမှုများထက် မြင့် မားသည့် စိတ်ပိုင်း၊ ရည်မှန်းချက်များကို ပယ်ချသည်။

ယင်း၏ လက်ရွေးစင် အတွေးအမြင်နှင့် ဆက်စပ်အမှန်တရားများကို ဆုပ်ကိုင်ရင်း သိပ္ပံသည် အရေးပါဆုံးသော ပြဿနာရပ်များကို လျစ်လျူရှုပြီး အဖြေမဲ့ မေးခွန်းရပ်များစွာတို့ကို ချန်ထားရစ်ခဲ့ပေသည်။ ယင်းအထဲတွင် လူချင်းတူပါလျက် ရုပ်ပိုင်း၊ စိတ်ပိုင်း အရည်အသွေးချင်း ဘာကြောင့် ကွာခြားရသနည်းဆိုသည့် မေးခွန်းမျိုးက သိပ္ပံ၏ အမြင်မဲ့မှုအောက်တွင် အဖြေပျောက်လျက် ရှိနေပါလိမ့်ဦးမည်။

**အဝိဇ္ဇာကို ထိုးဖောက်ကြည့်ခြင်း။** ။ဗုဒ္ဓကိုယ်တော်တိုင် ဟောများတော်မူအပ်သော လောကုတ္တရာစိတ်သည် အာရုံသိအဆင့်ကို ကျော်လွန်ပြီး ဆက်စပ်အသိ စိန္တာမယနယ်မှလည်း လွန်မြောက်သည်။ ဆန့်ကျင်ဘက်အားဖြင့် လူ့ အသိစိတ်သည် စုစည်းရယူထားပြီးဖြစ်သည့် ကိုးကွယ်ယုံကြည်မှု၊ အတွေးအခေါ်၊ အနုပညာစသည့် သက်ဆိုင်ရာ အသိနယ်ပယ်များထဲတွင်သာ ကျက်စားသည်။ စိတ်ပသာဒအတွက် အသိစိတ်ဝိညာဉ်ကို အာရုံခံ ပသာဒရုပ်များမှတစ်ဆင့် စုဆောင်းရရှိသည်။ မျက်စိအကြည်၊ နားအကြည်၊ နှာအကြည်၊ လျှာအကြည်နှင့် ကိုယ်အကြည်ဓါတ်များသည် အကြောင်းအမျိုးမျိုးကြောင့် (ထက်မြက်ကြည်လင်မှု) အဆင့်အလွန် နိမ့်ပါးသည်။ ထို့ကြောင့် အကန့်အသတ် ဘောင်ကျဉ်းကျဉ်းထဲ၌ အာရုံသိမှုဖြင့် လောကကို နားလည်ရာတွင် ကပြောင်းကပြန် ဖြစ်ကြရသည်။ 'အဝိဇ္ဇာကို ထိုးဖောက်ကြည့်ခြင်း' အမည်ရှိ စာအုပ်ထဲတွင် ပြင်သစ်ပညာရှင် နီကိုလာစ်အော့ဖ် ဆူဆာ (**Nicholas of Cusa**) က အောက်ပါအတိုင်း သုံးသပ်ပြခဲ့သည်။

"အာရုံသိမှုတွင်သာ အခြေခံသော ကျွန်ုပ်တို့၏ မောက်မာလှသည့် အသိ၊ ပညာဟူသမျှကား စင်စစ် မသိတွေဝေမှု အဝိဇ္ဇာသာ ဖြစ်ပေသည်။ အသိပညာမှန် ဝိဇ္ဇာကိုမူ အာရုံသိဖြင့်မဟုတ်ပဲ အာရုံသိနယ်ပယ်၏ အပြင်ဖက်သို့ ထွက်လျက် (ထိုးထွင်းသိဖြင့်) ဆင်ခြင်သုံးသပ်ခြင်းဖြင့်သာ ရရှိနိုင်ပေသည်။"

"အမှန်တရားကား ကျွန်ုပ်တို့၏ အပြင်ပိုင်း(ဝိညာဏ်ငါးပါး)၌ မတည်၊ အတွင်းပိုင်း (မနောဝိညာဏ်) ၌သာ ရှာဖွေတွေ့ရှိနိုင်သော အရာဖြစ်သည်။ စမ်းသပ်လေ့လာချက်ဖြင့် အမှန်တရားကို တွေ့ရှိရန် မမျှော်လင့်နိုင်။ အာရုံခံ အာရုံသိ၊ ဆင်ခြင်သိတို့ဖြင့်လည်း အမှန်တရားကို မရနိုင်။ စမ်းသပ်လေ့လာချက်၊ အာရုံသိ၊ ဆင်ခြင်သုံးသပ်သည့် ဤအရာများအားလုံးသည် အသိပညာ ပဟုသုတ ရရှိရေးအတွက်သာ အထောက်အကူပြု ကိရိယာတန်ဆာပလာများ ဖြစ်ကြသည်။ အမှန်တရား ရရှိရေးအတွက် မဟုတ်ကြ။ အမှန်တရားကား အတွင်းပိုင်း မနောဝိညာဏ်၌ သဘောပေါက်နားလည်မှုမှသာ လာရမည် ဖြစ်သည်။ ကျမ်း

စာအုပ်များသည် အတွေးကို နှိုးဆွပေးခြင်းဖြင့် အသိပညာဗဟုသုတကိုသာ ရရှိစေနိုင်သည်။ အမှန်တရားအတွက်မူ ယင်းသည် အတွင်းပိုင်း၌သာ ဖြစ်တည်လျက်ရှိသည့်အတွက် သင့်မျက်လုံးအစုံကို အတွင်းဘက်သို့ လှည့်ရပေလိမ့်မည်။ ထို့ကြောင့် အသိပညာဗဟုသုတ ရှာဖွေခြင်းနှင့် အမှန်တရား ရှာဖွေခြင်းတို့ကား တခြားစီသာ ဖြစ်ကြသည်။"

"စကားလုံးများသည် အာရုံငါးပါးဆိုသော အကန့်အသတ်ရှိသည့် စိတ်တို့၏ ထုတ်ကုန်ပစ္စည်းမျှသာ ဖြစ်ကြသည်။ ကျွန်ုပ်တို့၏ စိတ်များသည် အာရုံသိဗဟုသုတရရှိရေးအတွက် အာရုံငါးပါးဆိုင်ရာ တွေ့ကြုံ ထင်ဟပ်မှုပေါ်တွင်သာ မှီခိုနေရပေသည်။ သို့ဖြစ်၍ တစ်ခါတစ်ရံတွင်မူ အာရုံသိကို စိတ်ချယုံကြည်၍ မဖြစ်ပေ။ လူအတော်များများ သိမြင်လိုက်သည့် ဖြစ်ရပ်တစ်ခုကိုပင် ထင်မြင်ချက်အမျိုးမျိုး ပေးကောင်း၊ ပေးကြပါလိမ့်မည်။"

လောကသဘောအရမူ လူတို့သည် မိမိ တတ်သိလိမ္မာကြောင်း၊ ဗဟုသုတရှိကြောင်း များစွာ ဝင့်ကြွားလေ့ရှိကြသည်။ စင်စစ် တကယ်မသိသူများကသာ ထိုသို့ အထင်ရောက်လေ့ရှိကြပြီး တကယ်သိသူများကမူ ဘောင်ကျဉ်းမြောင်းလွန်းသော အသိနယ်ပယ်၏အဖြစ်ကို သဘောပေါက်သည့်အတွက် မသိဟုပင် ဝန်ခံလေ့ရှိကြသည်။ တစ်ခါက ထင်ရှားသည့် ပညာရှင်တစ်ဦးက ယင်း၏ နောက်ဆုံးလက်ရာအဖြစ် စာအုပ်တစ်အုပ် ရေးသားပြုစုသည်။ သူ့စာအုပ်ထဲတွင် စာပေရတနာများ၊ အတွေးအမြင်များ အားလုံး စုစည်းပါဝင်သည်ဟု သူ ယူဆသည့် အဆိုပါစာအုပ်ကို သူ့ကဲ့သို့ပင် နာမည်ကြီးသည့် ရေးဘော်၊ ရေးဘက် ပညာရှင်တစ်ဦးအား သုံးသပ်၊ ဝေဖန်ပေးရန် တောင်းပန်ပြီး သွားပြသည်။ ဤတွင် အဆိုပါပုဂ္ဂိုလ်က စက္ကူတစ်ရွက်ပေါ်တွင် သူသိတာတွေရော၊ မသိတာတွေရော အကုန်ရေးချပြရန် ပြောသဖြင့် ပညာရှင်ဆရာကြီးသည် အတွေးနက်နက်ဖြင့် ထိုင်ချလိုက်သည်။ အချိန်တွေသာ လင့်သွားသည့်တိုင် သူသိသည့်အရာ တစ်စုံတစ်ခုကိုမျှ ရေး၍ မရနိုင်ဖြစ်နေသည်။ ထို့နောက်တွင် ဒုတိယအမေးကို ဆက်စဉ်းစားကြည့်သည်။ ဤတွင်လည်း ဆရာကြီးသည် သူမသိသော မည်သည့်အရာကိုမျှ ရေးချနိုင်ခြင်း မရှိပေ။ နောက်ဆုံးတွင် ပညာရှင်ဆရာကြီးသည် သူသိသမျှ အကုန်လုံးတို့သည် အသိမှန်၊ ဝိဇ္ဇာ မဟုတ်မူ၍ မသိမှု၊ အဝိဇ္ဇာသာဖြစ်ကြောင်း သဘောပေါက်လာသဖြင့် မာနကျပြီး လက်မြှောက် အရှုံးပေးသွားသည်။ ဤအချက်နှင့်ပတ်သက်၍ ရှေးခေတ် အေသင်မြို့တော်၏ အကျော်အမော် အဘိဓမ္မာဆရာကြီး ဆော့ခရတ္တိအား သူသိတာ ဘာလဲဟု မေးသည့်အခါ ဆော့ခရတ္တိက "*ငါသိတာ တစ်ခုပဲရှိတယ်၊ အဲဒါ ငါဟာ ဘာမှ မသိဘူးဆိုတာပဲ*"ဟူ၍ ဖြေဆိုခဲ့လေသည်။

**သိပ္ပံနယ်လွန် ဗုဒ္ဓဘာသာ။** ။ဗုဒ္ဓဝါဒသည် သိပ္ပံဆိုင်ရာ စိတ်နယ်ပယ်က သတ်မှတ်ချက်ထက် ပိုမိုကျယ်ဝန်းသည့် အသိပညာနယ်ရှိခြင်းကြောင့် ခေတ်သစ် သပ္ပံထက် သာလွန်သည်။ အာရုံသိဖြင့်ရသည့် ပညာကိုရော၊ စိတ်ပိုင်းပျိုးထောင်မှုဖြင့်ရသည့် ပညာကိုပါ ဗုဒ္ဓဝါဒက လက်ခံသည်။ အပြင်းအထန် ရှုးစိုက်ထားအပ်သည့် စိတ်ကို လေ့ကျင့်ပွားများပေးခြင်းဖြင့် လောကုတ္တရာ အတွေ့အကြုံများကို သိမြင်နားလည်၊ ဆင်ခြင်တတ်လာသည်။ ဤကဲ့သို့သော သိမြင်နားလည် ဆင်ခြင်နိုင်စွမ်းမျိုးကို စမ်းသပ်ဖန်ပြွန်ဖြင့် စမ်းသပ်၍ ဖြစ်စေ၊ အဏုကြည့်မှန်ပြောင်းဖြင့် ကြည့်ရှု၍ ဖြစ်စေ မရနိုင်ပေ။

သိပ္ပံက ရှာဖွေတွေ့ရှိသည့် အမှန်တရားသည် ဆင့်ပွားအမှန်တရား (ပညတ်) ဖြစ်၍ ပြောင်းလဲနိုင်သည်။ ဗုဒ္ဓကိုယ်တော်တိုင် ရှာဖွေတွေ့ရှိခဲ့သည့် အမှန်တရားကား နောက်ဆုံးအဆင့်ဖြစ်၍ မပြောင်းလဲနိုင်။ အကြွင်းမဲ့ သစ္စာခေါ် ပရမတ္ထအမှန်တရား ဖြစ်၍ ကာလနှင့် အာကာသတို့ကို လိုက်၍လည်း ပြောင်းလဲခြင်း မရှိတော့ပေ။ ထို့ပြင်လည်း သိပ္ပံ၏ ရွေးချယ်အမှန်တရားနှင့် ဗုဒ္ဓဝါဒ မတူညီပုံမှာ–ဗုဒ္ဓက ဝါဒရေးရာကို ဖြစ်စေ၊ သိပ္ပံတွေ့ရှိချက်ကို ဖြစ်စေ၊ တစ်ခြား အရာတစ်ခုခုကို ဖြစ်စေ၊ မည်သည့်အရာကိုမဆို တရားသေ ဖက်တွယ်မထားကြဖို့ရန်သာ ဟောကြားတော်မူသည်။

သဘောတရားများ၏နောက်ကို လိုက်နေမည့်အစား အာရုံခံစားမှုများကို ကင်းငြိမ်းစေလျက်၊ လောဘတဏှာကို လျှော့ချ၊ ပယ်စွန့်လျက် အပြစ်မဲ့သော လူ့အဖြစ်ဖြင့် မည်သို့မည်ပုံ မှန်ကန်စွာ ကျင့်သုံး၊ နေထိုင်သွားရမည်ဆိုသည်ကိုသာ ဗုဒ္ဓက ဦးစားပေး၍ ဟောညွှန်တော်မူခဲ့ပါသည်။ ဤသို့လျှင် ဘဝ၏အဓိပ္ပါယ် အစစ်အမှန်ကို ရှာဖွေတွေ့ရှိနိုင်ပေသည်။

ဗုဒ္ဓတရားတော်အရ လက်တွေ့ကျင့်သုံးမှုသည် အထူးပင် အရေးပါလှသည်။ လေ့လာ၊ သင်ယူမှု (ပရိယတ္တိ) ကိုသာ များစွာဆောင်ပြီး၊ လက်တွေ့၊ ကျင့်သုံးမှု (ပဋိပတ္တိ) ကို လုံးဝရှောင်သူသည် ဟင်းတစ်ခွက်စာမျှ လက်တွေ့ချက်ပြုတ်မှုမရှိဘဲ ချက်ပြုတ်နည်းကျမ်းတွဲကြီးထဲမှ ချက်နည်းများစွာတို့ကို အလွတ် ရွတ်ပြနိုင်သူနှင့် တူသည်။ လက်တွေ့မကျ၊ စာတွေ့မျှဖြင့်ကား ဆာလောင်မွတ်သိပ်မှုကို ဖြေဖျောက်၍ မရနိုင်။ လက်တွေ့၊ ကျင့်သုံးမှုသည် အသိဉာဏ် အလင်းပေါက်ရေးအတွက် မရှိမဖြစ်အရေးပါသည့် ရှေးပြေး၊ လိုအပ်ချက်ဖြစ်သည်။ ဇင်ဂိုဏ်းကဲ့သို့သော ဗုဒ္ဓဘာသာဂိုဏ်းတစ်ချို့တွင် အကျင့်ကို အသိထက် ဦးစားပေးထားကြသည်။ ဤမျှအထိပင် အကျင့်သည် အရေးပါသော အရာဖြစ်သည်။

သိပ္ပံ၏ လုပ်နည်းလုပ်ဟန်က အပြင်လောကဘက်သို့ ဦးတည်သည်။ ခေတ်သစ်သိပ္ပံပညာရှင်များသည် ၎င်းတို့၏ တစ်ကိုယ်တော် ကောင်းစားရေးအတွက် သဘာဝပတ်ဝန်းကျင်နှင့် သဟဇာတဖြစ်ရေးကို လျစ်လျူရှုလျက် သဘာဝတရားနှင့် သံယံဇာတအ

ရင်းအမြစ်များကို အမြတ်ထုတ် ချယ်လှယ်ကြသဖြင့် ကမ္ဘာပြိုဟ်ကြီး ဤမျှအထိ ညစ်ညမ်းလာရခြင်း ဖြစ်သည်။ ဗုဒ္ဓဝါဒ၏ လုပ်နည်းလုပ်ဟန်က အတွင်းဘက် (လူ့စိတ်၊ မနောဝိညာဏ်) သို့ ဦးတည်သည်။ အတွင်းစိတ် တိုးတက်ဖွံ့ဖြိုးရေးကိုသာ အာရုံစိုက်သည်။ အခြေခံပိုင်းတွင် ဗုဒ္ဓဝါဒက နေ့စဉ်ဘဝ၌ ကြုံရဆုံရသည့် ဖြစ်ရပ်အဖုံဖုံ၊ အခြေအနေအမျိုးမျိုးတို့နှင့် မည်သို့ လိုက်လျော၊ ညီထွေနေထိုင်ရမည်ကို သွန်သင်ပေးသည်။ အဆင့်မြင့်ပိုင်းတွင် စိတ်ဓါတ်ရင့်ကျက်၊ တိုးတက်ရေး လက်တွေ့လေ့ကျင့်မှုများဖြင့် မိမိကိုယ်ကို မိမိ အောင်နိုင်၊ ကျော်လွှန်နိုင်စေရန် လူ၏ ကြိုးပမ်းမှုကို အားသစ်လောင်းပေးသည်။

ဗုဒ္ဓဝါဒ၌ ပရမတ်သစ္စာတရားဖြစ်သော နိဗ္ဗာန်ကို ကိုယ်တိုင် ထိုးထွင်း၊ သိမြင်ရေးသို့ ရှေးရှုသည့် ရုပ်နာမ်၊ သဘာဝများကို စူးစိုက်၊ ရှုမြင်နိုင်စွမ်းသော ဝိပဿနာ သမာဓိ ပျိုးထောင်ရေးစံနစ် အပြည့်အစုံရှိပေသည်။ လက်တွေ့ဆန်ပြီး သိပ္ပံနည်းကျသော ဤစံနစ်မှာ စိတ်၏ ပကတိအခြေအနေနှင့် လှုပ်ရှားပုံများကို အရှိကို အရှိအတိုင်း ရှုမြင်၊ သုံးသပ်ခြင်းပင် ဖြစ်သည်။ ယောဂီပုဂ္ဂိုလ်သည် အတွင်းစိတ်ကို သတိကြီးစွာဖြင့် ရှုမှတ်ရာတွင် အမှားအမှန်ကို ချိန်စက်ရသော တရားသူကြီးနှင့် တူသည်ထက် အရှိကို အရှိအတိုင်း လက်တွေ့ကျကျ လေ့လာစူးစိုက်ရသော သိပ္ပံပညာရှင်နှင့် ပို၍ တူလေသည်။

**ဘာသာယဉ်ကျေးမှုမဲ့ သိပ္ပံ။** ။ကိုယ်ကျင့်တရား'စံ'များ ကင်းမဲ့သဖြင့် လူသားထုတစ်ရပ်လုံးအတွက် သိပ္ပံသည် အန္တရာယ်ရှိသော အရာပင် ဖြစ်သည်။ နေရာတကာတွင် သူမပါလျှင် မပြီးသဖြင့် ဘုရင်တစ်ဆူသဖွယ် ဖြစ်လာသည့် စက်ယန္တရားကို သိပ္ပံက တီထွင်ခဲ့ခြင်း ဖြစ်သည်။ ကျည်ဆန်နှင့် ဗုံးတို့ကား ကမ္ဘာ့ကံကြမ္မာကို အဆုံးအဖြတ်ပေးပိုင်ခွင့် ရရှိထားကြသည့် အာဏာရှင် လူနည်းစုအတွက် သိပ္ပံ၏ လက်ဆောင်မွန်များ ဖြစ်ကြသည်။ အစွမ်းထက်လှသည့် ညျူကလီယားလက်နက်များ၊ အဆိပ်ဓါတ်ငွေ့လက်နက်များနှင့်၊ ပိုးမွှား ဓါတုဗီဇသည့် လူသတ်လက်နက်မျိုးစုံကို ဘိဇောက်စွာ သတ်ဖြတ်နိုင်ရေးအတွက် သိပ္ပံပညာဖြင့်ပင် အထူးသုတေသနပြု ဖန်ဆင်းတီထွင်ထားခြင်း ဖြစ်သည်။ လူသားအများစုအဖို့မှာ အဆိုပါ လက်နက်မျိုးမှုတို့ကို ဖွင်းအတွက် [illegible] ကြောက်မည်ဆိုသည်ကိုပင် ရေလည်လာခြင်း မသိရရှာဘဲ ခင်ဘာဆိတ်ဆိတ်နှင့် [illegible] ပုကိဏ ဘုံးကြီးကို ငုံလင့်နေကြရသည်။ သိပ္ပံသည် လူသားအား ကိုယ်ကျင့်တရား လမ်းညွှန်ချက် မပေးနိုင်ရုံမျှမက လူ့ ချမှက်စီးရေးကိုပင် မီးရှို့ပိုပြင်းအောင် လောင်စာထိုးပေးလျှက်ရှိသည်။

ကိုယ်ကျင့်တရားမဲ့ သိပ္ပံသည် ပျက်စီးခြင်းအဇိပ္ပါယ်ကိုသာ ဆောင်ပြီး ယင်းသည် လူသားကိုယ်တိုင် ရှာဖွေတွေ့ရှိခဲ့သည့် မကောင်းဆိုးဝါးကောင်ကြီး ဖြစ်လာသည်။ ထို့ထက်

ဆိုးသည်မှာ အခိုပါ မကောင်းဆိုးဝါးကောင်ကြီးက လူထက် အားသန်လာခြင်းပင် ဖြစ်၏။ ဘာသာရေးယဉ်ကျေးမှု၊ ကိုယ်ကျင့်သီလ၊ စာရိတ္တတို့ဖြင့်သာ မထိန်းချုပ်နိုင်ခဲ့သော် လူသည် မကောင်းဆိုးဝါး၏ ဝါးမျိုစားသောက်ခြင်းကို ခံရမည်။ ဘာသာရေးဘက်က လမ်းညွှန်နိုင်မှုမရှိလျှင် သိပ္ပံက ကမ္ဘာကြီးကို ဖျက်ဆီးပစ်ရန် ခြိမ်းခြောက်နေလေပြီ။ တစ်ခုရှိသည်မှာ– သိပ္ပံက ဗုဒ္ဓဘာသာကဲ့သို့သော ဘာသာရေးမျိုးနှင့် ယှဉ်တွဲ (ပူးပေါင်းဆောင်ရွက်) နိုင်မည်ဆိုပါက လူတို့ရိပ်မြုံ မြေဝသုန်ကို ငြိမ်းချမ်း၊ လုံခြုံမှုတို့ဖြင့် ပျော်ရွှင်ဖွယ်အတိပြီးသည့် သိရီဂေဟာ နေချင့်စဖွယ်ကမ္ဘာအဖြစ် ပြောင်းလဲပစ်၍ ရနိုင်ပေသည်။

ရုပ်ပိုင်းက တိုးတက်လာလေလေ စိတ်ပိုင်းက ဆုတ်ယုတ်လေ ဖြစ်နေသည်။ သို့ဖြင့် ယနေ့ ကမ္ဘာ့ နေရာအတော်များများတွင် နောက်ဆုံးပေါ် ရုပ်ပိုင်းဖွံ့ဖြိုးမှုများက နာမ်ပိုင်းဆိုင်ရာ တန်ဖိုးများကို လွှမ်းမိုးသွားကြလေပြီ။ သိပ္ပံနှင့် ဘာသာရေးပူးပေါင်းရန် ယခုကာလမှာလောက် အပူတပြင်း လိုအပ်သည့်ခေတ်မျိုး မည်သည့်အခါကမှ မရှိခဲ့ဖူးပေ။ သိပ္ပံနည်းမကျသည့် ဘာသာရေးက အကန်းနှင့် တူပြီး ဘာသာရေးမဲ့ သိပ္ပံကား အကျိုးနှင့် တူလေသည်။

**ဗုဒ္ဓဝါဒ၏ စွမ်းဆောင်နိုင်အား။** ။ဗုဒ္ဓဝါဒ၌ ပညာဟူသည် သူတစ်ပါး ဒုက္ခကို မိမိ ဒုက္ခနှင့်မခြား သဘောထားနိုင်ခြင်း (ကရုဏာတရား) အပေါ် အခြေခံသည်။ သိပ္ပံပညာကား အန္တရာယ်ပြွမ်းသည့် ခရီးဆုံးပန်းတိုင်ဆီသို့ တစ်ဟုန်ထိုး အပြေးနှင်လျှက်ရှိသည်။ သို့ဖြစ်၍ ဗုဒ္ဓဝါဒနည်းဖြင့် ခေတ်သစ်သိပ္ပံ၏ ဦးတည်ရာ လမ်းကြောင်း မှန်ကန်အောင် ပြုပြင်ပေးရမည်။ ဤအတွက် ဗုဒ္ဓဓမ္မ၏ အခန်းကဏ္ဍသည် အလွန်အရေးပါ၏။ အနာဂါတ်တွင် တောက်ပြောင်လာဦးမည့် လူ့ယဉ်ကျေးမှုကြီးတစ်ရပ်ကို တည်ဆောက်ရာတွင် သိပ္ပံဆိုင်ရာ သုတေသနနှင့် တီထွင်မှုအပိုင်း၌ စိတ်ပိုင်းဆိုင်ရာဘက်မှ ဦးဆောင်လမ်းညွှန်မှုကို ဗုဒ္ဓဝါဒက ပေးစွမ်းနိုင်အားရှိသည်။ လောလောဆည်တွင် အလွန်အမင်းနိုင်လှသည့် တီထွင်ဆန်းသစ်မှုများ၏ ကျွန်ပြုမှုကို ခံယူရင်း မျှော်လင့်ချက် ကင်းမဲ့သလိုဖြစ်လာနေသည့် သိပ္ပံဆိုင်ရာ တိုးတက်ဖြစ်ပေါ်မှုများအတွက် သင့်တော်သည့် ဦးဆောင်မှုကို ဗုဒ္ဓဝါဒက ပေးနိုင်သည်။

အဲလ်ဘာတ် အိုင်းစတိုင်းက ဗုဒ္ဓဘာသာအား ဂုဏ်ပြုပြောဆိုရာတွင် "*ခေတ်သစ်သိပ္ပံ၏ လိုအပ်ချက်များကို ဖြည့်ဆည်းပေးနိုင်သည့် တစ်ခုတည်းသော ဘာသာတရားမှာ ဗုဒ္ဓဘာသာပင် ဖြစ်ရမည်*" ဟု ဆိုခဲ့သည်။ နောက်ဆုံးပေါ် သိပ္ပံတွေ့ရှိမှုများနှင့် အံဝင်ခွင်ကျ ဖြစ်စေရန်အတွက် ဗုဒ္ဓဝါဒအား မည်သည့်ပြင်ဆင်စရာမျှ မလိုအပ်ပေ။ သိပ္ပံနှင့် သိပ္ပံနယ်လွန် အခြေအနေရပ်များပါ အကျုံးဝင်ပြီးဖြစ်၍ ဗုဒ္ဓဘာသာအနေဖြင့် သိပ္ပံ၏ ရှေ့မှောက်၌ မည်သို့မျှ အလျှော့ပေးစရာ မလိုပါ။ ဗုဒ္ဓဘာသာသည် လ[illegible]

လူ့ပတ်ဝန်းကျင်၌ သိုက်ကိန်းအောင်းလျက် ရှိနေဦးမည့် စွမ်းအင်များကို ရှာဖွေဖော်ထုတ်ရန် လူကို အားပေး၊ အားမြှောက်ပြုရင်း ဘာသာရေးနှင့် သိပ္ပံအကြားတွင် ပေါင်းကူးတံတားသဖွယ် ဖြစ်နေပေလိမ့်မည်။

**အကာလိကဓမ္မ။** ။တစ်ချို့သော အရာဝတ္ထု သို့မဟုတ် သဘောတရားတစ်ခုသည် ခေတ်တစ်ခေတ်အတွင်း၊ ဒေသတစ်ခု၏ ဘောင်အတွင်း၌သာ ရှင်သန်ဖြစ်တည်တတ်သည့် သဘောရှိသည်။ သို့ရာတွင် မီးဖိုချောင်သုံး ပစ္စည်းများအနက် ဆား၏ ငန်သောအရသာသည် မည်သည့်ဒေသ၊ မည်သည့်ကာလ၌မဆို တည်မြဲ၏။ ပြောင်းလဲ၊ ပျက်ပြယ်သွားခြင်း မရှိပေ။ တစ်ချို့သောအရာနှင့်၊ သဘောတရားတို့သည်လည်း ဆား၏သဘောတရားကဲ့သို့ပင် အချိန်အကန့်အသတ် ဒေသဘောင်များကို ကျော်လွန်နိုင်ကြသည်။ တရုတ်၊ ဟိုးမားနှင့်၊ ရှိတ်စပီးယားတို့ကဲ့သို့သော ဆရာကြီးများ၏ လက်ရာတို့ကို လူမျိုး၊ ကာလနှင့် ဒေသမရွေး ခံစား၊ ဖတ်ရှု၍ ရနိုင်သည်။ နှစ်ပေါင်း ၂၅၀၀–ကျော် ကြာလာပြီးဖြစ်သည့်တိုင် ဗုဒ္ဓဒေသနာတော်များ၏ အကြွင်းမဲ့ သစ္စာတရားတော်များသည် လူသတ္တဝါတို့၏ အကျိုးကို ထိရောက်စွာ သယ်ပိုးနိုင်ဆဲပင် ဖြစ်သည်။ ယနေ့ခေတ် လူသားများ အားလုံး တွေ့ကြုံခံစားနေကြရသည့် ဆင်းရဲ၊ ဒုက္ခအပေါင်း၏ အကြောင်းရင်းဇာစ်မြစ်ကို ဗုဒ္ဓသည် ထိုစဉ်ကတည်းက အတိအကျ ထောက်ပြတော်မူခဲ့ပြီးဖြစ်သည်။ ပဋိစ္စသမုပ္ပါဒ် ဒေသနာတော်အရ အနတ္တ၏အဖြစ်ကို မသိသဖြင့် အရာရာကို ငါ၊ ငါ့ဟာစသည်ဖြင့် တွယ်တာမြတ်နိုး၊ စွဲလမ်းမိကြသည့်အတွက် ဒုက္ခစက်ဝိုင်းထဲမှ ကျွတ်ခွင့်၊ လွတ်ခွင့် မရနိုင်ဖြစ်နေကြခြင်း ဖြစ်သည်။ အကယ်၍သာ ငါ့ဟာအဖြစ်ဖြင့် သိမ်းပိုက်စွဲလမ်းရအောင် ငါဆိုသည့်အရာကိုယ်တိုင်က တကယ်မရှိကြောင်း ကောင်းစွာ သဘောပေါက်ကြမည်ဆိုပါက လူတစ်ဦးချင်းစီ၏ ပြဿနာများမှသည် ကမ္ဘာ့အကြီးမားဆုံး ပြဿနာရပ်များအထိကိုပါ အပြည့်အဝ ဖြေရှင်းနိုင်ကြမည်မှာ သေချာပေသည်။ အတ္တစွဲကို အပြီးသတ်မဟုတ်သည့်တိုင် အနည်းငယ် ပယ်ဖျောက်နိုင်လျှင်ပင် များစွာချမ်းသာခွင့်ရကြမည် ဖြစ်၏။ ဥပမာ–ငါ့အတွက်၊ ငါ့ တိုင်းပြည်အတွက်၊ ငါ့ဘာသာ၊ ငါ့ယဉ်ကျေးမှုအတွက်ဆိုသော အထင်စွဲဖြင့် အဖြစ်သည်းစွာ တိုက်ပွဲဝင်လျက်ရှိကြသည့် ယနေ့ခေတ် လူသားများ၏ ရင်ထဲမှ အတ္တစွဲကို ယခုထက်အနည်းငယ် လျှော့ချပစ်လိုက်သည်နှင့် လူကို လူအဖြစ် သမာသမတ်ကျစွာ ရှုမြင်၊ လက်ခံလာနိုင်ကြမည် ဖြစ်ပါသည်။

ထိုအခါ–

ခွဲခြားဆက်ဆံမှုနေရာတွင် တစ်ပြေးညီ ပြုမူခြင်းဖြင့် –

အမုန်းပွားမှုကို မေတ္တာဖြင့်–

အငြိုးအတေး၊ အာဃာတကို သည်းခံ၊ ခွင့်လွှတ်မှုဖြင့်–

ကျဉ်းမြောင်းသည့် အမြင်များကို သဘောထားကြီးမှုဖြင့် –

ထိပ်တိုက်ရင်ဆိုင်မှုကို ပူးပေါင်းဆောင်ရွက်မှုဖြင့်–

အစားထိုး၊ ပြောင်းလဲပစ်ရန် မည်သို့မျှ ခက်ခဲမည်မဟုတ်တော့ပေ။ လောလောဆည်တွင် ကမ္ဘာအနှံ့ ဆိုးဝါးစွာ ရင်ဆိုင်နေကြရသည့် အကြမ်းဖက်ဝါဒဆိုး၏ ဓားမိုး၊ ခြိမ်းခြောက်ခံနေရချိန်မျိုးတွင် ဗုဒ္ဓတရားတော်များ၏ တန်ဖိုးကို သိမြင်ပြီး ဖော်ထုတ်၊ ကျင့်သုံးကြပါမှ စိတ်ချရသည့် လုံခြုံမှု အစစ်အမှန်ကို ရယူနိုင်ကြပါလိမ့်မည်။ ယခု ဒေါက်တာ နန္ဒောဘာသ မြန်မာပြန်ဆိုလိုက်သည့် “ ဗုဒ္ဓဓမ္မ ဆွေးနွေးချက်များ ” အမည်ရှိ ဤစာအုပ်ငယ်တွင် ဗုဒ္ဓတရားတော်၏ တန်ဖိုးနှင့်ပတ်သက်၍ အမြင်ကျယ်စေမည့် မေးဖြေဆွေးနွေးချက်များ များစွာပင် ပါဝင်လျက်ရှိကြောင်း တွေ့ရပါလိမ့်မည်။ လူတစ်ဦးချင်းစီ၏ ရင်ထဲတွင် ငြိမ်းချမ်းမှ တစ်ကမ္ဘာလုံး ငြိမ်းချမ်းရေးရမည်။ လွန်ခဲ့သော နှစ်ပေါင်း ၂၅၀၀–ကျော်ကာလက ဗုဒ္ဓဟောတော်မူခဲ့သည့် အနတ္တဝါဒ၊ မေတ္တာ၊ ကရုဏာစသည့် လောကလမ်းညွှန်တရားတော်များသည် လူရှိတိုင်း လူ့ ပြဿနာရပ်များ ရှိနေဦးမည့် နောင်လာမည့် ခေတ်အဆက်ဆက်တွင်ပါ ထာဝရရှေးပြေး အလင်းမီးရှူး၊ တန်ဆောင်အဖြစ် ဦးဆောင်မှုပေးနိုင်ဦးမည်သာ ဖြစ်ပါသတည်း။

အသျှင်အရိယာဝံသ

**မှီငြမ်း**

**Religion in a Scientific Age by Ven. Dr. K. Sri Dhammananda. Gems of Buddhist Wisdom, Published in 1996 by the Buddhist Missionary Society, Malaysia.**

## ဗုဒ္ဓဝါဒဆိုတာ ဘာလဲ

မေး။ ။ဗုဒ္ဓဝါဒဆိုတာ ဘာပါလိမ့်။

ဖြေ။ ။ ဗုဒ္ဓကနေပြီး ဗုဒ္ဓဝါဒဆိုတဲ့ ဝေါဟာရ ဖြစ်လာတာပါ။ ဗုဒ္ဓိ – နိုးထခြင်းလို့ အဓိပ္ပါယ်ရလေတော့ ဗုဒ္ဓဝါဒဆိုတာ နိုးထခြင်း ဒဿနပါပဲ။ သိဒ္ဓတ္ထဂေါတမ ဆိုတဲ့ပုဂ္ဂိုလ်ကို ဗုဒ္ဓလို့ပဲ လူတွေက အသိများကြတယ်။ ဗုဒ္ဓဟာ သက်တော် ၃၆–နှစ် အရွယ်မှာ သူကိုယ်တိုင် နိုးထခဲ့သူ ဖြစ်ပြီးတော့ ဒီနိုးထခြင်း ဒဿန (ဗုဒ္ဓဝါဒ) ဆိုတာကို ဂေါတမဗုဒ္ဓရဲ့ ကိုယ်တော်တိုင် ဖြတ်သန်းလာခဲ့ရတဲ့ ဘဝအတွေ့အကြုံတွေအပေါ်မှာ အခြေခံပြီး တည်ဆောက်ထားတာပဲ ဖြစ်ပါတယ်။ ယခုအခါ ဗုဒ္ဓဝါဒရဲ့ သက်တမ်းက နှစ်ပေါင်း ၂၅၀၀–ကျော်လာပါပြီ။ တစ်ကမ္ဘာလုံး အတိုင်းအတာအရ ဗုဒ္ဓဘာသာဝင်ဦးရေဟာလည်း သန်းပေါင်း ၃၀၀–ကျော်ခန့် ရှိနေပါတယ်။ ပြီးခဲ့တဲ့ နှစ် ၁၀၀–ခန့်အထိတော့ ဗုဒ္ဓဘာသာဟာ အာရှဒဿနအဆင့်လောက်ပဲ ကျယ်ပြန့်နိုင်ခဲ့တာပါ။ အခုခေတ်မှာတော့ ဥရောပနှင့် အမေရိကတို့မှာပါ အလွန်ပဲ ကျယ်ပြန့်စွာ လိုက်စားလာနေကြပါပြီ။

မေး။ ။ ဒီလိုဆိုရင် ဗုဒ္ဓဝါဒဟာ "ဖီလိုဆိုဖီ" (**Philosophy**) ဆိုတဲ့ အတွေးအခေါ် တစ်ရပ်မျှသာ ဖြစ်ပါသလား။

ဖြေ။ ။ ဖီလိုဆိုဖီဆိုတာ (**Philo**) နှင့် ဆိုဖီယာ (**Sophia**) ကို ပေါင်းထားတာပါ။ ဖီလိုက မေတ္တာလို့ အဓိပ္ပါယ်ထွက်ပြီး ဆိုဖီယာက ပညာလို့ အနက်ရပါတယ်။ ဒါကြောင့် ဖီလိုဆိုဖီဆိုတာ ပညာနှင့်ယှဉ်တဲ့ မေတ္တာ၊ ဒါမှမဟုတ် မေတ္တာနှင့် ပညာပါပဲ။ အဓိပ္ပါယ်ဖွင့်ပုံ နှစ်မျိုးလုံးက ဗုဒ္ဓဝါဒကို အပြည့်အဝ ဖော်ညွှန်းနိုင်ပါတယ်။ ဗုဒ္ဓဝါဒရဲ့ သွန်သင်ချက်က ရှင်းလင်းတိကျစွာ သဘောပေါက်နားလည်စေဖို့အတွက် အသိဉာဏ်၊ ပညာရဲ့အဆင့်ကို အစွမ်းကုန်မြှင့်တင်ဖို့ ကြိုးစားရမယ်၊ သတ္တဝါတွေအားလုံးကို မိတ်ဆွေရင်းချာတွေလို သဘောထားနိုင်အောင် အကြင်နာတရားနှင့် မေတ္တာတရားကို တိုးမြှင့်ပွားများပေးရမယ်ဆိုတာပဲ ဖြစ်ပါတယ်။ ဒါကြောင့် ဗုဒ္ဓဝါဒဟာ ဖီလိုဆိုဖီဆိုရင်လည်း ဟုတ်ပါတယ်။ ဖီလိုဆိုဖီ မည်ကာမတ္တမျှတော့ မဟုတ်ဘူး၊ အမြင့်မားဆုံး ဖီလိုဆိုဖီလို့ပဲ ဆိုရပါလိမ့်မယ်။

မေး။ ။ ဗုဒ္ဓဆိုတာကကော ဘယ်သူပါလဲ။

ဖြေ။ ။ ဘီစီ ၅၆၃–ခုနှစ်မှာ အိန္ဒိယမြောက်ပိုင်းက ဘုရင့်မျိုးနွယ်ထဲမှာ ကလေးငယ် တစ်ဦး မွေးဖွား၊ သန့်စင်ခဲ့ပါတယ်။ သူဟာ စည်းစိမ်၊ ဥစ္စာတွေ အလျှံပယ်ပြည့် စုံစွာဖြင့် ဇိမ်ကျကျ နေထိုင်ကြီးပြင်းလာခဲ့ရတာပါ။ ဒါပေမဲ့ နောက်ပိုင်းကျတော့ ဒီလောကီ၊ စည်းစိမ်ရိပ်ငြိမ်တွေနှင့် လုံခြုံစိတ်ချရမှုဆိုတာတွေဟာ ထာဝစဉ် ချမ်းမြေ့ပျော်ရွှင်မှုအတွက် အာမခံချက်ပေးနိုင်တဲ့ အရာတွေ မဟုတ်ဘူးဆိုတာ သူ သိမြင်သဘောပေါက်လာခဲ့တယ်။ ပတ်ဝန်းကျင်မှာ တွေ့မြင်ကြုံဆုံခဲ့ရတဲ့ ဆင်းရဲငြိုငြင်ရမှု ဒုက္ခစုတွေကလည်း သူ့ကို အတော်ပဲ တုန်လှုပ်၊ ချောက်ချားစေခဲ့တယ်။ ဒါနဲ့ပဲ ဘဝရဲ့ငြိမ်းမှုအကြောင်းခံတရားကို ရှာဖွေဖို့ ဆုံးဖြတ်လိုက်တယ်။ အသက် ၂၉–နှစ်အရွယ်မှာ မိန်းမနှင့်၊ ကလေးကို စွန့်ပြီးတော့ အဲဒီခေတ်ရဲ့ ထိပ်တန်း ဘာသာရေးခေါင်းဆောင်ကြီးတွေဆီကို နည်းခံ၊ သင်ယူဖို့ ချဉ်းကပ်ခဲ့တယ်။ အဲဒီ ဆရာကြီးတွေကလည်း သူ့ကို ဖိဖိစီးစီး သင်ပြပေးကြပါတယ်။ ဒါပေမဲ့ အဲဒီ ဆရာကြီးတွေထဲမှာ ကိုယ်က ဘဝဒုက္ခတွေဟာ ဘာကြောင့် ဖြစ်ပေါ်လာရတယ်၊ အဲဒီ ဒုက္ခတွေကို ဘယ်လိုလုပ်ပြီး ကျော်လွှားနိုင်မည်ဆိုတာကို တတ်သိနားလည်သူတစ်ယောက်မှ မပါဝင်ကြပါဘူး။ နောက်ဆုံး ခြောက်နှစ်ကြာမျှ တရားတွေကို အပတ်တကုတ်ကြိုးစား အားထုတ်ပြီးတဲ့နောက်မှာတော့ မသိမှု၊ မောဟတွေအားလုံးကို ပယ်ဖျောက်နိုင်စွမ်းတဲ့ ဉာဏ်တော်တစ်မျိုးကို သူ ပိုင်ဆိုင်လာခဲ့ပါတယ်။ အဲဒီကတည်းက စပြီး သူ့ကို ဗုဒ္ဓ (နိုးကြားပြီးသူ) လို့ ခေါ်လာကြတော့တာပါပဲ။ ဘုရားအဖြစ်ကို ရောက်တော်မူပြီးတဲ့နောက် ဗုဒ္ဓဟာ ၄၅–နှစ်ကြာ အသက်ရှင်၊ နေထိုင်တော်မူခဲ့ပါတယ်။ ၄၅–နှစ်တာ ကာလတလျှောက်လုံး သူ ထိုးထွင်းသိမြင်တော်မူခဲ့တဲ့ သစ္စာတရားတော်ကို သတ္တဝါ၊ ဝေနေယျတွေကို ဟောညွှန်း၊ ချွတ်ချွတ်တော်မူရင်း အိန္ဒိယမြောက်ပိုင်း တစ်ခွင်လုံးကို ခရီး၊ ဒေသစာရီ လှည့်လည်တော်မူခဲ့ပါတယ်။

ဗုဒ္ဓရဲ့ မဟာကရုဏာတော်နှင့် သည်းခံမှု၊ ခန္တီတရားတော်တွေကတော့ အံ့သြရလောက်အောင်ကို ကြီးမား၊ မြင့်မြတ်လှပါတယ်။ ထောင်ချီတဲ့ လူတွေကို တပည့်၊ သားသမီးတွေဖြစ်လာအောင် ဟောညွှန်း၊ သွန်သင်တော်မူခဲ့ပါတယ်။ သက်တော် ၈၀–အရွယ်မှာ အိုမင်းရင့်ရော်မှုနှင့် နာမကျန်းမှု ဒုက္ခတွေကို ခံစားတော်မူရပေမဲ့ ငြိမ်းချမ်းစွာပဲ ပရိနိဗ္ဗာန် စံဝင်တော်မူခဲ့ပါတယ်။

မေး။ ။ မိန်းမနှင့်၊ ကလေးကို စွန့်ပစ်ပြီး တောထွက်ခဲ့တာဆိုတော့ ဗုဒ္ဓမှာ တာဝန်မဲ့ရာ မရောက်ပေဘူးလား။

ဖြေ။ ။ ဗုဒ္ဓဟာ သူ့မိသားစုကို အလွယ်ကလေးနှင့် စွန့်ပစ်ခဲ့တာတော့ မဟုတ်ပါဘူး။ သူ့အနေနှင့် နောက်ဆုံး စွန့်ခွါမဖြစ်ခင်မှာ ကာလအတော်ကြာ စိုးရိမ်ပူပန်ပြီး ဆုတ်ဆုတ်ဆိုင်းဆိုင်း ဖြစ်နေခဲ့ရတာပါ။ ဒါပေမဲ့ သူ ရွေးချယ်ဆုံးဖြတ်ရမှာက သူဟာ သူ့

မိသားစု တစ်ခုတည်းအတွက်လား၊ တစ်လောကလုံးအတွက်လား ဆိုတာပါပဲ။ သူ့ရဲ့ ကြီးမြတ်လှတဲ့ မဟာကရုဏာစိတ်ခံက တစ်လောကလုံးအတွက် သူ့ကိုယ်သူ အသုံးချခဲ့သွားမယ်ဆိုတဲ့လမ်းကိုပဲ နောက်ဆုံး ရွေးဖြစ်စေခဲ့ပါတယ်။ သူ့ရဲ့ အနစ်နာခံ၊ စွန့်လွှတ်ရုန်းကန်ခဲ့မှုကြောင့်လည်း တစ်လောကလုံး အကျိုးများနေတုန်းပါပဲ။ (ဒါကြောင့်) ဒါဟာ တာဝန်မဲ့ရာ မရောက်တဲ့အပြင် မကြုံစဖူး၊ ထူးကဲကြီးမြတ်တဲ့ စွန့်လွှတ်မှု (မဟာပရိစ္စာဂ)[၁]ပဲ ဖြစ်ပါတယ်။

မေး။ ။ ဗုဒ္ဓဟာ သက်တော်ထင်ရှား မရှိတော့ပါဘူး။ ပရိနိဗ္ဗာန် ပြုသွားပါပြီ၊ ဒီတော့ ဘယ်လိုလုပ်ပြီး ဗုဒ္ဓက လူတွေကို အကူအညီပေးနိုင်ဦးမှာပါလဲ။

ဖြေ။ ။ လျှပ်စစ်ဓါတ်ကို တီထွင်၊ ဖေါ်ထုတ်ခဲ့တဲ့ ဖာရာဒေး (Faraday) ကွယ်လွန်ခဲ့ပါပြီ။ သူဖေါ်ထုတ်ခဲ့တဲ့ လျှပ်စစ်ဓါတ်ကတော့ အကျိုးပြုနေတုန်းပါပဲ။ လူးဝစ်ပစ္စရှာ(Luis Pateur) ဆိုရင် ရောဂါ အတော်များများအတွက် ကုထုံးတွေကိုဖေါ်ထုတ်ချမှတ်ခဲ့ပါတယ်။ သူ့ရဲ့ ဆေးသိပ္ပံတွေ့ရှိချက်တွေက အသက်ပေါင်းများစွာကို ကယ်တင်နေဆဲပါပဲ။ လီယိုနာဒို ဒါပင်ချီ (Leonardo da Vinci) ရဲ့ အနုပညာမြောက်လှတဲ့ ဖန်တီးမှုတွေက လူတွေကို ရွှင်မြူး၊ တက်ကြွတဲ့ရသတွေ ပေးနေတုန်းပါပဲ။ သူတော်စင်တွေနှင့် သူရဲကောင်းတွေဟာ လွန်ခဲ့တဲ့ရာစုနှစ် အတော်ကြာကတည်းက ကွယ်လွန်ခဲ့ကြပြီဖြစ်ပေမဲ့ သူတို့ ဖန်တီးခဲ့ကြတဲ့ လုပ်ရပ်တွေနှင့် အောင်မြင်ဖြစ်ထွန်းမှုတွေကို မျိုးဆက်သစ်တွေ ဖတ်ရှုသိရှိရတဲ့အခါ ပန်းပြောင်း ဆက်ခံဖို့ စိတ်အားတွေ ထက်သန်စေတုန်းပါပဲ။ အလားတူ ဗုဒ္ဓဟာ သက်တော်ထင်ရှား မရှိတော့ပေမဲ့ နှစ်ပေါင်း ၂၅၀၀–ကျော်လာပြီးဖြစ်သည့်တိုင် ဗုဒ္ဓရဲ့ လမ်းညွှန်မှုတွေက လူတွေကို အကျိုးပြုဆဲပါပဲ။ ဗုဒ္ဓရဲ့ စံနမူနာတွေကလည်း လူတွေကို အားတက်စေတုန်းပါပဲ။ ဗုဒ္ဓရဲ့ နှုတ်ကပတ်တော်တွေဟာ လူတွေရဲ့ ဘဝတွေကို အဆိုးကနေ အကောင်းဘက်ဆီသို့ ပြောင်းလဲပေးနေဆဲပါပဲ။ ပရိနိဗ္ဗာန်ပြုတော်မူပြီးနောက် ရာစုနှစ်တွေနှင့်ချီပြီး သူ့ရဲ့အရှိန်အဝါကို အများဆုံး ရိုက်ခတ်ပေးနိုင်စွမ်းသူကတော့ဖြင့် ဗုဒ္ဓပဲ ဖြစ်ပါတယ်။

မေး။ ။ ဗုဒ္ဓကကော ဖန်ဆင်းရှင် (God) တစ်ဆူ ဖြစ်ပါသလား။

ဖြေ။ ။ ဗုဒ္ဓဟာ ဖန်ဆင်းရှင်တစ်ဆူ မဟုတ်ပါဘူး။ သူဟာ ဖန်ဆင်းရှင်တစ်ဆူ ဖြစ်ကြောင်း ဘယ်တုန်းကမှ မိန့်မြွက်တော်မူခဲ့တာ မရှိသလို ဖန်ဆင်းရှင်ရဲ့ သား

---

၁။ သမ္မာသမ္ဗောဓိဆုပန် အလောင်းတော်များ လိုက်နာကျင့်ကြံအားထုတ်ရသည့် ပါရမီဖြည့်ခြင်းဆိုင်ရာ စွန့်ခြင်းကြီးငါးပါး၊ ဓနပရိစာဂ–စွန့်နိုင်ခဲလှစွာသော မင်းစည်းစိမ်၊ ရတနာဆင်မြင်းစသည်တို့ကို စွန့်ခြင်း၊ အင်္ဂပရိစာဂ–ခြေလက်စသော ကိုယ် အင်္ဂါအစိတ်အပိုင်းတို့ကို စွန့်ခြင်း၊ ပုတ္တပရိစာဂ–သားသမီးတို့ကို စွန့်ခြင်း၊ ဘရိယာပရိစာဂ–မယားကို စွန့်ခြင်း၊ ဇီဝိတပရိစာဂ–မိမိအသက်ကို စွန့်ခြင်း။

တော်တစ်ပါး၊ ဒါမှမဟုတ် တမန်တော်တစ်ပါး ဖြစ်တယ်လို့လည်း ဘယ်တုန်းကမှ မပြော ခဲ့ပါဘူး။ ဗုဒ္ဓဟာ သူ့ဟာနှင့်သူ ပြည့်စုံပြီးမြောက်သူ ဖြစ်ပြီးတော့ သူညွှန်းပြတဲ့ နည်းလမ်းအတိုင်း လိုက်နာကျင့်သုံးမည်ဆိုရင် လူသားဟာ အဖက်ဖက်မှ ပြည့်စုံသူအဖြစ်ကို ရောက်ရှိနိုင်တယ်လို့ပဲ ဟောတော်မူခဲ့ပါတယ်။

မေး။ ။ ဗုဒ္ဓဟာ ဖန်ဆင်းရှင်မဟုတ်ခဲ့လို့ရှိရင် လူတွေက ဘာကြောင့် ဗုဒ္ဓကို ကိုးကွယ်၊ ဆည်းကပ်နေကြတာပါလိမ့်။[၁]

ဖြေ။ ။ ကိုးကွယ်မှုဆိုင်ရာ ပုံစံ၊ နည်းနာတွေကတော့ အမျိုးမျိုးပါပဲ။ တစ်စုံတစ်ယောက်ဟာ ဖန်ဆင်းရှင်ကို ကိုးကွယ်၊ ပူဇော်ရာမှာ သူတို့ရဲ့ ချီးကျူးသံကို ဖန်ဆင်းရှင်ဘုရား ကြားသိလိမ့်မယ်၊ အလှူဝတ္ထုတွေကိုလည်း လက်ခံပြီးတော့ တောင်းတဲ့ဆုကိုလည်း ဖြည့်ဆည်းပေးမှာပဲဆိုတဲ့ ယုံကြည်ချက်နှင့် အဲဒီဖန်ဆင်းရှင်ဘုရား၊ ဒါမှမဟုတ် ဘုရားမကို ချီးကျူးတယ်၊ ဂုဏ်ပြုတယ်၊ လှူဒါန်းတယ်၊ ဆုတောင်းပတ္ထနာ ပြုကြတယ်။ ဗုဒ္ဓဘာသာဝင်တွေအဖို့မှာတော့ အဲဒီလို ပူဇော်ကိုးကွယ်မှုမျိုးကို လုပ်လေ့ လုပ်ထမရှိကြပါဘူး။

ပူဇော်ပုံ နောက်တစ်နည်းကတော့ အမြတ်တနိုး၊ တရိုတသေထားအပ်တဲ့ တစ်စုံတစ်ယောက်၊ ဒါမှမဟုတ် တစ်စုံတစ်ရာကို ရိုသေတယ်ဆိုတာကို ပြသလိုတဲ့ အခြေအနေမျိုးမှာပါပဲ။ ဆိုပါတော့–စာသင်ခန်းထဲ ဆရာဝင်ရောက်လာတဲ့အခါ ထရပ်ကြတယ်၊ လူကြီးလူကောင်းတစ်ယောက်နှင့် ဆုံတဲ့အခါ လက်ဆွဲနှုတ်ဆက်ကြတယ်၊ အမျိုးသားသီချင်းကို တီးမှုတ်သီဆိုတဲ့အခါ အလေးပြုကြတယ်။ ဒါတွေအားလုံးဟာ လေးစားမှု၊ ပူဇော်သမှုပြုကြောင်းပြတဲ့ အမှုအရာတွေပဲ ဖြစ်ပြီးတော့၊ အဲဒီတစ်စုံတစ်ဦး၊ တစ်စုံတစ်ရာအတွက် ရိုသေလေးစားကြောင်း ဖော်ညွှန်းချက်ဖြစ်သလို ဗုဒ္ဓဘာသာဝင်တွေ လုပ်ဆောင်လေ့ရှိတဲ့ ပူဇော်ပုံ၊ နည်းနာလည်းပဲ ဖြစ်ပါတယ်။

နူးအိတဲ့ ခြေဖမိုးတော်ပေါ်မှာ လက်တော်ကို ဖြေလျှော့ချပြီး မဟာကရုဏာတော်အပြုံးကို ဆောင်တော်မူထားတဲ့ တင်ပလ္လင်ခွေ ဗုဒ္ဓရုပ်ပွားတော်တစ်ဆူဟာ လူတွေရဲ့ရင်ထဲမှာ ငြိမ်းချမ်းမှုနှင့် မေတ္တာပွားများကြဖို့ နှိုးဆော်နေသလိုပါပဲ။ အမွှေးတိုင်ရဲ့ ရနံ့က သီလဂုဏ်ကို အမှတ်ရစေသလို ဆီမီးရဲ့အလင်းက ပညာရဲ့ဂုဏ်ပုဒ်ကို ဖော်ဆောင်နေပါတယ်။ မကြာခင်လေးမှာပဲ ညှိုးခြောက်၊ နွမ်းဖတ်သွားကြမဲ့ ပန်းကလေးတွေကတော့ တည်မြဲ၊ ခိုင်မာမှုမရှိတဲ့သဘောကို အာရုံရောက်စေပါတယ်။ ဗုဒ္ဓကို ရှိခိုးပူဇော်တဲ့ အခိုက်အတန့်မှာ ဒေသနာတော်တွေကို ဟောညွှန်၊ လမ်းပြပေးမှုအတွက် မိမိတို့အပေါ် တင်ရှိတဲ့ ဗုဒ္ဓရဲ့ကျေးဇူးတော် အနန္တတွေကို အာရုံယူ၊ ပူဇော်ကြပါတယ်။ ဒါဟာ ဗုဒ္ဓဘာသာတွေ ပြုလုပ်တဲ့ ကိုးကွယ်ပူဇော်မှု သဘောတရားပဲ ဖြစ်ပါတယ်။

---

၁။ ဖန်ဆင်းရှင်ကိုသာ ကိုးကွယ်ဆည်းကပ်ထိုက်သည်၊ လူ လူချင်း ကိုးကွယ်ဆည်းကပ်ဖွယ်ရာ မလိုဟု ဆိုလိုသည်။

မေး။ ။ လူတွေပြောတာ ကြားဖူးပါတယ်။ ဗုဒ္ဓဘာသာဝင်တွေဟာ ဆင်းတု (Idols) တွေကို ကိုးကွယ်ကြတယ် ဆိုပါလား။

ဖြေ။ ။ ဒီလိုမျိုး အပြောတွေ ဆိုတာကတော့ အဲဒီစကားပြောတဲ့ ပုဂ္ဂိုလ်တွေရဲ့ ရေလိုက်လွဲနေမှု၊ မပြည့်ဝမှုကို ထင်ဟပ်ပြတဲ့ ဖေါ်ထုတ်ချက်မျှသာ ဖြစ်ပါတယ်။ ဖန် ဆင်းရှင် (God) အဖြစ် ကိုးကွယ်တဲ့ ရုပ်ပုံ ဒါမှမဟုတ် ရုပ်လုံး၊ ရုပ်ထုကို (Idol) ခေါ်တယ်လို့ အဘိဓာန်က ဖွင့်ဆိုပါတယ်။ အထက်မှာ ဆွေးနွေးခဲ့သလို ဗုဒ္ဓဘာသာတွေဟာ ဗုဒ္ဓကို ဖန်ဆင်းရှင်တစ်ဦးဖြစ်တယ်လို့ မယူဆကြပါဘူး။ ဒါကြောင့် သစ်သား ဒါမှမဟုတ် သတ္တုအတုံးကလေးတစ်ခုကို ဖန်ဆင်းရှင်အဖြစ် ဘယ်လိုလက်ခံလို့ ရနိုင်ပါ့မလဲ။ ကိုးကွယ်မှုဆိုင်ရာ ဘာသာတွေအားလုံးမှာပဲ သက်ဆိုင်ရာဘာသာတွေ၊ ဝါဒတွေကို ဖော်ထုတ်ပြသဖို့အတွက် အမှတ်သင်္ကေတ (Symbols) တွေကို အသုံးပြုလေ့ ရှိကြပါတယ်။ တာအိုဘာသာ (Taosim)မှာ ပဋိပက္ခတွေအကြား ညီညွတ်မျှတမှုကို အမှတ်အသားပြုတဲ့ ယင်ယန်း (Ying Yang)[၁] ကို အသုံးပြုပါတယ်။ ဆိခ်ဘာသာ (Sikhism) မှာဆိုရင် စိတ်ဓာတ်ဥာဉ်ကွန့်မြူး၊ လှုပ်ရှားမှုရဲ့ သင်္ကေတအဖြစ် ဓားရှည် (The sword)ကို အသုံးပြုပါတယ်။ ခရစ်ယာန် ဘာသာမှာတော့ ခရစ်တော်ရဲ့ သက်ရှိ၊ တည်ရှိမှုကို ထင်ဟပ်စေဖို့ ငါးရုပ် (The fish) ကိုသုံးပြီး၊ ခရစ်တော်ရဲ့ အနစ်နာခံ၊ စွန့်လွှတ်မှုကို ဖော်ကျူးဖို့အတွက် လက်ဝါးကပ်တိုင်ကြက်ခြေ (The cross)ကို အသုံးပြုပါတယ်။ ဗုဒ္ဓဘာသာမှာတော့ ဗုဒ္ဓဟာ အရာရာအဖက်ဖက်က ပြီးပြည့်စုံတဲ့ လူသားရဲ့အဖြစ်ကို ဖေါ်ပြဖို့အတွက် ဗုဒ္ဓဆင်းတုတော်တွေကို အသုံးပြုနေကြတာပဲ ဖြစ်ပါတယ်။ ဗုဒ္ဓဒေသနာတော်အရ ဗုဒ္ဓဆင်းတုတော်ဟာ လူသားရဲ့အရေးပါမှုကို ထင်ဟပ်စေတာလည်းပဲ ဖြစ်ပါတယ်။ ဗုဒ္ဓဝါဒဟာ လူကိုသာ အဓိကထားပြီးတော့ ဖန်ဆင်းရှင်ကို ဗဟိုပြုတဲ့ ဝါဒမျိုး မဟုတ်ပါဘူး။ ဒါကြောင့်လည်း ပြီးပြည့်စုံမှုနှင့် ထိုးထွင်း သိမြင်မှုကို ရှာဖွေတဲ့အခါ အပြင်ဘက် ဗဟိဒ္ဓရမ္မေတွေထဲမှာ မရှာဘဲ ကိုယ့်ခန္ဓာဆိုတဲ့ အ တွင်းဘက် အဇ္ဈတ္တသန္တာန်မှာပဲ ရှာရမယ်ဆိုတဲ့အချက်ကိုလည်း ဗုဒ္ဓရုပ်ပွားတော် ကိုးကွယ်မှုက ဖော်ညွှန်းနေတာ ဖြစ်ပါတယ်။ ဒီတော့ ဗုဒ္ဓဝါဒီတွေဟာ ဖန်ဆင်းရှင်တွေရဲ့ ကိုယ်ပွားဖြစ်တဲ့ (Idols) တွေကို ကိုးကွယ်ကြတယ်ဆိုတာကတော့ မမှန်ကန်ပါဘူး။

မေး။ ။ ဗုဒ္ဓဘာသာ ဘုရားကျောင်းကန်တွေမှာ ဗုဒ္ဓဘာသာတွေဟာ ငွေစက္ကူတွေကို မီးရှို့လိုက်ရှို့နှင့် ထူးဆန်းတဲ့ အမူအရာတွေ အမျိုးမျိုးလုပ်နေကြတာ တွေ့ရပါတယ်။ ဘာကြောင့်ပါလဲ။

ဖြေ။ ။ သဘောတရားကို နားမလည်တဲ့အခါ အရာရာဟာ အထူးအဆန်းတွေချည်း ဖြစ်နေမှာပါပဲ။ ဒါမျိုးတွေကို အထူးအဆန်းလုပ်ပြီး ပယ်ချနေမဲ့အစား ဒါတွေရဲ့

၁။ Ying Yan=ဩကာသလောကရှိ ဖိုဓါတ်၊ မဓါတ်။

အတွင်းသဘော၊ ဆိုလိုရင်းကို နားလည်၊ သိရှိလာအောင်ပဲ ကြိုးစားသင့်ပါတယ်။ တစ်ခါတစ်ခါ တစ်ချို့သော ဗုဒ္ဓဘာသာဝင်တွေရဲ့ လုပ်ရပ်တွေဟာ ဗုဒ္ဓရဲ့ အဆုံးအမကောင်းကို ကျော်လွန်ပြီးတော့ ဗုဒ္ဓဝါဒနှင့် မကိုက်ညီတဲ့ နားလည်မှု လွဲမှားတာ၊ လူပြိန်းကြိုက် အယူသည်းတာတွေပေါ်မှာ အခြေခံပြီး လုပ်နေကြတာတွေ ရှိတယ်ဆိုတာ မှန်ပါတယ်။ ဒါပေမဲ့ ဒီလိုမျိုး ရေလိုက်လွဲနေကြတာတွေဟာ ဗုဒ္ဓဘာသာတစ်ခုတည်းမှာသာ မဟုတ်ပါဘူး။ တစ်ခြားဘာသာတွေ အားလုံးမှာလည်းပဲ မကြာခဏ တွေ့မြင်ရတတ်တာပါပဲ။ ဗုဒ္ဓကတော့ အသေးစိတ် တိတိကျကျ ရှင်းလင်းဟောကြားခဲ့တာပါပဲ။ အပြည့်အဝ နားမလည်ရှာတဲ့ တစ်စုံတစ်ယောက်အတွက်ကြောင့်တော့ ဗုဒ္ဓအပေါ် အပြစ်မပို့လောက်ပါဘူး။ ဒီအချက်နှင့် ပတ်သက်ပြီး ဗုဒ္ဓကိုယ်တော်တိုင် ဟောတော်မူထားတာရှိပါတယ်။

"ရောဂါဝေဒနာတွေကို ကြိတ်မှိတ်ခံစားနေရသူ လူနာတစ်ဦးသည် မိမိအနီးအပါး၌ ဆေးဆရာကြီးရှိပါလျက် ဆေးကုသခံယူဖို့ရန် အားမထုတ်ဘူးဆိုရင် ဤသည်မှာ ဆေးဆရာကြီးရဲ့ အပြစ်မဟုတ်ပေ။

အလားတူ ကိလေသာရောဂါဖြင့် ဖိစီး၊ နှိပ်စက်မှုဒဏ်ကို အလူး၊ အလှိမ့်ခံနေရသူ တစ်ဦးသည် ဗုဒ္ဓရဲ့ ကူညီဖေးမမှုကို ရယူဖို့ရန် လုံ့လမထုတ်ဘူးဆိုရင် ဤသည်မှာ ဗုဒ္ဓ၏ ဝန်တာမဟုတ်ပေ။"[၁]

ဗုဒ္ဓဘာသာကို ဖြစ်စေ၊ ဒါမှမဟုတ် တစ်ခြား ဘာသာတရားတစ်ခုခုကို ဖြစ်စေ ဟုတ္တိပတ္တိ၊ တိတိပပလိုက်နာကျင့်ဆောင်ခြင်း မရှိတဲ့သူတွေက အဲဒီ ဘာသာတရားအပေါ်မှာ မှားတယ်၊ မှန်တယ်ဆိုပြီး အဆုံးအဖြတ် မပေးသင့်ပါဘူး။ ဗုဒ္ဓရဲ့ မှန်ကန်တဲ့ တရားတော်တွေကို တတ်သိနားလည်ချင်ရင် ဗုဒ္ဓစာပေ၊ ပိဋကတ်တော်တွေကို ဖတ်ရမယ်၊ ဗုဒ္ဓဓမ္မနှင့် ပတ်သတ်လို့ ကျွမ်းကျင်တတ်မြောက်တဲ့ ပုဂ္ဂိုလ်တွေဆီ ချဉ်းကပ်ဆွေးနွေးရမယ်။

မေး။ ။ ဗုဒ္ဓဝါဒဟာ သိပ်ကောင်းတယ်၊ သိပ်မှန်တယ်ဆိုရင် ဗုဒ္ဓဘာသာနိုင်ငံ တစ်ချို့ကျတော့ ဘာကြောင့် ဆင်းရဲတွင်း၊ နက်နေကြရတာပါလိမ့်။

ဖြေ။ ။ ဆင်းရဲတယ်ဆိုတာ စီးပွားရေးရှုထောင့်တစ်ခုတည်းက ကြည့်ပြီး ပြောမယ်ဆိုရင်တော့ ဟုတ်ပါတယ်။ ဗုဒ္ဓဘာသာနိုင်ငံတစ်ချို့ဟာ ဆင်းရဲကြပါတယ်။ ဒါပေမဲ့ ဆင်းရဲတယ်ဆိုတဲ့စကားဟာ ဘဝအရည်အသွေး၊ ဘဝတန်ဖိုးနိမ့်ကျ၊ ဆင်းရဲတာမျိုးကို ဆိုလိုတယ်ဆိုရင်တော့ ဗုဒ္ဓဘာသာနိုင်ငံတွေဟာ မဆင်းရဲတဲ့အပြင် ပို၍တောင် ချမ်းသာကြပါသေးတယ်။ ဆိုပါတော့ အမေရိကဟာ ကမ္ဘာမှာ စီးပွားရေးအရ ချမ်းသာကြွယ်ဝပြီး လက်နက်နှင့်၊ နိုင်ငံရေးအရလည်း အင်အားကြီးနိုင်ငံတစ်ခု ဖြစ်ပါတယ်။ ဒါပေမဲ့ ကမ္ဘာ့

---

၁။ ဇာတကနိပါတ ၂၈-၉

စရိုက် အထူပြောဆုံးနိုင်ငံလည်း ဖြစ်ပါတယ်။ သန်းချီတဲ့ အမေရိကန် သက်ကြီး၊ ရွယ်အို တွေဟာ သူတို့သားမြေးတွေရဲ့ လျစ်လျူရှု စွန့်ပစ်ခြင်းခံရပြီးတော့ ဘိုးဘွားရိပ်သာတွေမှာ အထီးကျန်မှုဝေဒနာနှင့် ကွယ်လွန် နေကြရရှာပါတယ်။ အကြမ်းဖက်မှုနှင့် ကလေးအခွင့် အရေး ချိုးဖေါက်မှုတွေဟာလည်း အဓိက ပြည်တွင်းရေးပြဿနာတွေ ဖြစ်နေပါတယ်။ အိမ်ထောင်ရေးပိုင်းမှာဆိုရင် စုံတွဲသုံးတွဲလျှင် တစ်တွဲကျွန်းက ကွာရှင်းမှုနှင့် ဇာတ်သိမ်း ပါတယ်။ ညစ်ညမ်းရုပ်ရှင်လိုမျိုးတွေကတော့ ပေါမှပေါပါပဲ။ ငွေကြေးအရ ချမ်းသာကြပါရဲ့၊ ဘဝတန်ဖိုးအရတော့ သိပ်ဆင်းရဲကြပါတယ်။ နောက် ဥပမာပေးစရာတစ်ခုကတော့ စီး ပွါးရေးအရ နောက်ကျကျန်ရစ်တဲ့ မြန်မာနိုင်ငံပါပဲ။ မြန်မာ့လူငယ်၊ သားမြေးတွေက မိဘ ဘိုးဘွားတွေကို ရိုသေလေးစားကြတယ်။ ရာဇဝတ်ဖြစ်ပွားမှုနှုန်းကလည်း တစ်ခြားနိုင်ငံ တွေနှင့်စာရင် သိပ်နည်းပါးလှပါတယ်။ ကွာရှင်းပြတ်စဲမှုတို့၊ ကိုယ့်ဟာကိုယ် အဆုံးစီရင် မှုတို့ဆိုတာတွေက မကြားစဖူးသလောက်ပါပဲ။ အကြမ်းဖက်မှု၊ ကလေးအခွင့်အရေး ချိုး ဖောက်မှုဆိုတာတွေကလည်း မရှိသလောက်ပါပဲ။ ညစ်ညမ်း၊ ရုပ်ရှင်လိုဟာမျိုးတွေနှင့် ကာမ မှုဆိုင်ရာလုပ်ငန်း ထူထောင်ခွင့်ဆိုတာတွေကတော့ ရှိကို မရှိကြပါဘူး။ စီးပွါးရေးဖက်က ခေတ်နောက်ကျနေရစ်ပေမဲ့ ဘဝတန်ဖိုးနှင့် ပတ်သက်လို့ကတော့ အမေရိကလိုနိုင်ငံမျိုး ထက် အများကြီးမြင့်မား သာလွန်လှပါတယ်။ ဒါပေမဲ့ စီးပွါးရေး ရှုထောင့်တစ်ခုတည်းက ကြည့်ပြီးတော့ ဗုဒ္ဓဘာသာဝင်နိုင်ငံတွေကို ချမ်းသာ၊ ဆင်းရဲ အဆုံးအဖြတ် ပေးလိုကြသေး တယ်ဆိုရင်တော့ ဂျပန်နိုင်ငံကိုပဲ ပြရပါလိမ့်မည်။ ခုခေတ် ကမ္ဘာမှာ အချမ်းသာဆုံးနှင့် စီး ပွါးရေးအရ အတိုးတက်ဆုံးနိုင်ငံများအထဲတွင် ဂျပန်နိုင်ငံလည်း တစ်နိုင်ငံအပါအဝင် ဖြစ် ပါတယ်။ အဲဒီမှာ ယူဦးရေ ၉၃-ရာခိုင်နှုန်းဟာ ဗုဒ္ဓဘာသာဝင်အဖြစ် ခံယူသူတွေပဲ ဖြစ် ကြပါတယ်။

မေး။ ။ ဗုဒ္ဓဘာသာဝင်တွေ ပြုလုပ်တဲ့ ကုသိုလ်ဖြစ်လုပ်ငန်းတွေ၊ ဘာတွေအကြောင်း မကြာခဏဆိုသလို မကြားသိရတာက ဘာ့ကြောင့်ပါလဲ။

ဖြေ။ ။ ဗုဒ္ဓဘာသာဝင်တွေအနေနှင့် သူတို့ပြုလုပ်တဲ့ ကုသိုလ်ဖြစ်လုပ်ငန်းတွေအတွက် ဟိတ်ဟန်ထုတ်ပြီး ပလွှားလွှားလုပ်စရာမလိုဘူးလို့ ခံယူထားကြတဲ့အတွက် ကြောင့် ဖြစ်ရင်၊ ဖြစ်နိုင်ပါတယ်။ ပြီးခဲ့တဲ့ နှစ်အတော်ကြာက ဂျပန်ဗုဒ္ဓဘာသာခေါင်း ဆောင် နိခ္ခိ နိရဝန်နိ (Nikkho Nirwano) ဟာ ဘာသာပေါင်းစုံညီညွတ်မှု တိုးမြှင့်ရေး လုပ်ရှားမှုအတွက် တန်ပဲလတွန်ဆု (Templeton Prize) ကို ရရှိခဲ့ပါတယ်။ အလားတူ ဆေးခြောက်သမားတွေအပေါ် အကျိုးဆောင်မှုလုပ်ရပ်အတွက် မကြာသေးခင်က ထိုင်း ရဟန်းတော်တစ်ပါးကို ဩဇာအရှိန်အဝါကြီးလှတဲ့ မဂ်ဆေးဆေး (Magsaysay Prize) ဆုချီးမြှင့်ခဲ့ပါတယ်။ နောက် ထိုင်းရဟန်းတော်တစ်ပါးဖြစ်တဲ့ အရှင်ကန္တပလိတ် (Ven.

Kantayapiwat) ကိုလည်း ကျေးလက်၊ တောပိုင်းတွေက မိဘမဲ့ကလေးသူငယ်တွေကို ကူညီ၊ စောင့်ရှောက်ပေးမှုအတွက် ၁၉၈၇–ခုနှစ်မှာ နော်ဝေနိုင်ငံဆိုင်ရာ ကလေးငယ်များ ငြိမ်းချမ်းရေးဆု (Norwegian Children's Prize) နဲ့ ချီးမြှင့်ခဲ့ပါသေးတယ်။

နောက်ပြီး အိန္ဒိယဆင်းရဲသားလူထုကြီးအတွက် အနောက်တိုင်း ဗုဒ္ဓဘာသာဝင်တွေက လုပ်ဆောင်ပေးတဲ့ ကုသိုလ်ဖြစ်လုပ်ငန်းတွေ အများအပြား ရှိပါသေးတယ်။ အခမဲ့စာသင်ကျောင်းတွေ၊ ကလေးစောင့်ရှောက်ရေးဌာနတွေ၊ ဆေးပေးခန်းတွေ၊ တနိုင်တပိုင် ရပ်တည်နိုင်ရေးအတွက် အသေးစားစက်မှုလုပ်ငန်းတွေ ထူထောင်ပေးကြပါတယ်။ ဗုဒ္ဓဘာသာဝင်တွေဟာလည်း တစ်ခြားဘာသာဝင်တွေလိုပဲ သူတစ်ပါးကို ကူညီစောင့်ရှောက်ခြင်းဟာ ဘာသာရေးကျင့်စဉ်တစ်ခု ဖြစ်တယ်လို့ ခံယူကြပါတယ်။ ဒါပေမဲ့ ဗုဒ္ဓဘာသာဝင်တွေက မိမိ ကိုယ်ကို နာမည်ကြီးအောင်တော့ဖြင့် မလုပ်သင့်၊ သိုသို၊ သိပ်သိပ်ကလေးပဲ လုပ်သင့်တယ်လို့ ယူဆကြတဲ့အတွက်ကြောင့် ဗုဒ္ဓဘာသာဝင်တွေရဲ့ ကုသိုလ်ဖြစ်လုပ်ငန်းတွေအကြောင်း မကြာခဏ မကြားကြရတာ နေမှာပါ။

မေး။ ။ ဗုဒ္ဓဘာသာမှာ ဂိုဏ်းကွဲတွေ ဘာကြောင့် ဒီလောက်အထိ များများ၊ စားစား ကွဲပြားနေရတာပါလဲ။

ဖြေ။ ။ သကြားအမျိုးအစားတွေ အမျိုးမျိုးရှိကြသလိုပါပဲ။ သကြားညို၊ သကြားဖြူ၊ သကြားမှုန့်၊ သကြားခဲ၊ သကြားရည်၊ ရေခဲသကြား စုံလို့ပါပဲ။ ဒါပေမဲ့ ဒီသကြားမျိုးအစားတွေ အားလုံးဟာ သကြားတွေချည်းဖြစ်ပြီးတော့ ချိုကြတာချည်းပါပဲ။ လိုရင်လိုသလို နည်းလမ်းမျိုးစုံနှင့် အသုံးပြုနိုင်အောင်လို့ ပုံစံအမျိုးမျိုးဖြင့် ထုတ်လုပ်ထားတာပဲဖြစ်ပါတယ်။ ဗုဒ္ဓဘာသာလည်း ဒီနည်းလည်းကောင်း အတိုင်းပါပဲ။ ထေရဝါဒဗုဒ္ဓဘာသာ၊ ဈာန်ဗုဒ္ဓဘာသာ၊ ပျူဝါးလန်းဗုဒ္ဓဘာသာ၊ ယောဂါစာရနှင့်၊ ဝဇီရာယာန ဗုဒ္ဓဘာသာဂိုဏ်းတွေလည်း ရှိပါတယ်။ ဒါတွေအားလုံးဟာ ဗုဒ္ဓဘာသာတွေ ဖြစ်ပြီးတော့၊ လွတ်မြောက်မှုဆိုတဲ့ အနှစ်သာရချင်း အတူတူပဲ ဖြစ်ကြပါတယ်။ ဗုဒ္ဓဘာသာပုံစံတွေ အခုလောက် ထွေပြားသွားရတာဟာလည်း အဲဒီ ဗုဒ္ဓဘာသာဂိုဏ်း ထွန်းကားတည်ရှိရာဒေသရဲ့ ယဉ်ကျေးမှုပေါင်းစုံနှင့် လိုက်လျောညီထွေရှိအောင်လို့ပဲ ဖြစ်ပါတယ်။ ဗုဒ္ဓဘာသာမျိုးဆက်သစ်တွေနှင့် လိုက်လျောညီထွေရှိစေဖို့ ဗုဒ္ဓဓမ္မကို ခေတ်အဆက်ဆက် အကြိမ်ကြိမ် အနက်ဖွင့်ယူလာခဲ့ကြပါတယ်။ အပြင်ပန်းအားဖြင့် ဗုဒ္ဓဘာသာ အမျိုးအမည်တွေ စုံအောင် ကွဲပြားကြပေမဲ့လို့ အနှစ်သာရကတော့ သစ္စာလေးပါးနှင့်၊ မဂ္ဂင်ရှစ်ပါးပါပဲ။ ဗုဒ္ဓဘာသာအပါအဝင် တခြားသော ဘာသာကြီးတွေမှာလည်းပဲ ဂိုဏ်းပေါင်းများစွာ၊ အတွေးအခေါ်အုပ်စုပေါင်းများစွာ ကွဲပြားကြတာချည်းပါပဲ။ ဒါပေမဲ့ ဗုဒ္ဓဘာသာ စင်ပြိုင်ဂိုဏ်းတွေ အချင်းချင်း တိုက်ပွဲဆင်တာ၊ ရန်စောင်တာတွေ မရှိခဲ့ကြသလို အချင်းချင်းမလိုလားတဲ့၊ အမုန်းပွါးတဲ့ အပြုအမူတွေကိုလည်း မပြသခဲ့ကြပါဘူး။ အခုခေတ်မှာဆိုရင် ဂိုဏ်းကွဲအချင်းချင်းတွေရဲ့

ကျောင်းကန်ဘုရားတွေဆီကို အပြန်အလှန် ဝင်ထွက်သွားလာပြီးတော့ အတူတကွ ဝတ်ပြုကြတာမျိုးတွေတောင် ရှိလာပါပြီ။ ဒီလိုမျိုး သည်းခံခွင့်လွှတ်တာ နားလည်၊ စာနာတာတွေဟာ ကမ္ဘာမှာကို ရှားရှားပါးပါးပါပဲ။

မေး။ ။ ဗုဒ္ဓဘာသာ တစ်ခုတည်းကသာ မြင့်မြတ်တယ်၊ မှန်ကန်တယ်ဆိုတော့ တခြားဘာသာတွေ အားလုံးဟာ မှားယွင်းကြတယ်ပေါ့။

ဖြေ။ ။ ဗုဒ္ဓတရားတော်ကို နားလည်သဘောပေါက်တဲ့ ဘယ်ဗုဒ္ဓဝါဒီကမှ တခြားဘာသာတရားတွေဟာ မှားယွင်းကြတယ်လို့ မယူဆပါဘူး[၁]။ တခြားဘာသာတရားတွေကို ပွင့်ပွင့်လင်းလင်း ထိထိမိမိ လေ့လာဆန်းစစ်လိုတဲ့သူ တစ်ဦးအနေနှင့် အဲသည်လိုမျိုး မတွေးခေါ်သင့်ပါဘူး။ မတူကွဲပြားတဲ့ တခြားဘာသာတရားတွေကို ဆန်းစစ်လေ့လာရာမှာ ပထမဆုံး သိထားရမည့်အချက်က အဲဒီ ဘာသာတွေထဲမှာ အများအကျိုးဆောင်မှု ဘယ်လောက်ပါဝင်သလဲ ဆိုတာပါပဲ။ လူသားရဲ့ မျက်မှောက် အနေအထားဟာ ကျေနပ်နှစ်သိမ့်လောက်စရာ မရှိဘူး[၂]လို့ပဲ ဘာသာတရားတွေ အားလုံးက အသိအမှတ်ပြုထားကြပြီးတော့ လူသားရဲ့ လက်ရှိအနေအထားကို မြှင့်တင်ချင်တယ်ဆိုရင် စိတ်ထားနှင့် အကျင့်စရိုက်တွေကို ပြုပြင်ပြောင်းလဲကြဖို့ လိုအပ်တယ်လို့လည်း အားလုံးကပဲ ယုံကြည်ကြပါတယ်။ မေတ္တာ၊ ကရုဏာ၊ ခန္တီ၊ စေတနာ၊ သဒ္ဓါနှင့် လူ့ကျင့်ဝတ်တွေ (ဂီဟိဝိနယ)တွေ ပါဝင်တဲ့ကိုယ်ကျင့်၊ သိက္ခာတရားတွေကို ဘာသာတိုင်းလိုလိုကပဲ ဟောညွှန်းကြပြီးတော့ ဒီတရားတွေရဲ့ အကြွင်းမဲ့ဖြစ်တည်မှု[၃]ကိုလည်း လက်ခံထားကြပါတယ်။ မေတ္တာ၊ ကရုဏာစတဲ့ ဒီဓမ္မကြောင်းတွေကို ဖေါ်ထုတ်ရှင်းလင်းဖို့အတွက်တော့ သက်ဆိုင်ရာဘာသာစကားတွေ၊ အခေါ်အဝေါ်တွေနှင့် သင်္ကေတတွေ ကို (နီးစပ်ရာ ကိုယ်ပိုင်ဟန်တွေနှင့်) သုံးနှုန်း၊ ဖေါ်ပြကြပါတယ်။ ဘာသာရေး ပဋိပက္ခတွေ၊ မောက်မာမှုတွေနှင့် ကိုယ့်ငါး ကိုယ်ချဉ်မှုတွေ ပေါ်ပေါက်လာရတယ်ဆိုတာကလည်း တစ်ဖက်သတ် ကျဉ်းမြောင်းစွာ သုံးသပ်ဖေါ်ပြကြတဲ့ အခါလိုမျိုးတွေမှာသာ ဖြစ်တတ်ကြတာပါ။ မတ်ခွက်ကလေး တစ်ခွက်ကို ဝိုင်းကြည့်နေကြတဲ့ လူတစ်စုကိုပဲ စိတ်ကူးနှင့် မှန်းဆကြည့်ကြပါစို့။ သူတို့အထဲမှာ အင်္ဂလိပ်၊ ပြင်သစ်၊ တရုတ်နှင့် အင်ဒိုနီးရှားလူမျိုး တစ်ဦးစီတို့ ပါဝင်ကြပါတယ်။ အင်္ဂလိပ်လူမျိုးက ပြောလိုက်တယ် "ဒါ မတ်ခွက်ကလေးပေါ့" ဘဲ့။ ပြင်သစ်က ဒါကို ပယ်ချပြီး အဖြေပေးလိုက်တယ် "မဟုတ်သေးဘူးလေ၊ ဒါက တစ်ဆေ (Tasse) ပဲဟာ" တဲ့။ တရုတ်ကလည်း

---

၁။ အမှန်ကို အမှန်အတိုင်း သိမြင်ခြင်းကသာ သစ္စာဖြစ်ပြီး မိမိအယူတစ်ခုတည်းကသာ မှန်ကန်ပြီး အခြားအယူတွေအားလုံး မှားယွင်းသည်ဟု ယူခြင်းသည် အစွန်းရောက်မစ္ဆာအယူ တစ်မျိုးတည်းသာဖြစ်သည်ဟု ဗုဒ္ဓဘာသာက ခံယူသည်။

၂။ ဒုက္ခ၊ တေဘူမကံ ဝဋ္ဋ ဘုံသုံးပါး၌ ဖြစ်သမျှ ဒုက္ခနယ်ထဲတွင် အပါအဝင်ချည်းဖြစ်သည်ဟု ဗုဒ္ဓဘာ သာက ယူဆသည်။

၃။ အကြွင်းမဲ့ ဖြစ်တည်မှု (**Form of absolute**)

သူ့ထင်မြင်ချက်ကို ဖေါ်ထုတ်တယ် "မင်းတို့တွေ ပြောကြတာ မှားတယ်၊ ဒါက ပေအိ (Pei) ပါ"တဲ့။ အင်ဒိုနီးရှားက အားလုံးကို ဟာသလုပ်ပြီး ပြောချလိုက်တယ် "မင်းတို့တွေ တော်တော် အ,ကြပါလား၊ ဒါက ကဝန် (Cawan) ပဲလေ" တဲ့။ အဲဒီမှာ အင်္ဂလိပ်က အဘိဓာန်စာအုပ်ကြီး ဆွဲဖွင့်ပြီး "ဒီမှာ ကျွန်တော် သက်သေ ပြနိုင်ပါတယ်၊ ဒါဟာ ခွက်ကလေး (Cup) ပဲတဲ့၊ ကျွန်တော့်အဘိဓာန်က ဒီလိုပဲ ဆိုတယ်ဗျ" လို့ ထောက်ပြတယ်။ "ဒါဆို ခင်ဗျား အဘိဓာန်က အမှားကြီးပဲ ဖြစ်လိမ့်မယ်၊ ဘာပြုလို့လည်းဆိုတော့ ကျွန်တော့် အဘိဓာန်က ဒါကို တစ်ဆေ (Tasse) လို့ပဲ သေသေချာချာ ရှင်းပြထားတယ်လေ" လို့ ပြင်သစ်က ပြန်ပြောတယ်။ တရုတ်က သူတို့နှစ်ဦးလုံးကို လှောင်လိုက်ပြီးတော့ "ကျွန်တော့် အဘိဓာန်က ခင်ဗျားတို့ရဲ့ အဘိဓာန်တွေထက် နှစ်ပေါင်းထောင်ချီပြီး ရှေးကျတယ်၊ ဒါကြောင့် ကျွန်တော့် အဘိဓာန်ကပဲ အမှန်ဖြစ်ရမယ်၊ ပြီးတော့ တရုတ်စကားပြောတဲ့သူက ကမ္ဘာမှာ လူဦးရေ အများဆုံးမို့လို့ ဒါဟာ ပေအိ (Pei) ပဲ ဖြစ်ကို ဖြစ်ရမယ်" တဲ့။ အဲဒီလို ဝိုင်းဖွဲ့ ငြင်းခုံနေကြတုန်းမှာပဲ ဗုဒ္ဓဘာသာဝင်တစ်ဦး ရောက်လာပြီး ခွက်ကလေးထဲက အရည်ကို သောက်ချလိုက်တယ်။ ပြီးတော့မှ "ဒါကို ခင်ဗျားတို့က ခွက်ပဲခေါ်ခေါ်၊ တစ်ဆေပဲဆိုဆို၊ ပေအိလို့ပဲ ပြောပြော၊ ကဝန်လို့ပဲသုံးသုံး၊ ဒီခွက်ကလေးရဲ့ ရည်ရွယ်ချက်ကတော့ လူတွေ အသုံးအစွဲပြုဖို့ပါပဲ။ အငြင်းပွားမှုကို ရပ်ပြီး သောက်ပဲ၊ သောက်သုံးတော်မူကြပါ။ ခိုက်ရန်ပွားမှုကို ဖယ်ရှားပြီး ရေဆာမှုကို ဖြည့်သိပ်တော်မူကြပါလို့ ပြောပြတယ်။ ဒါဟာ တစ်ခြားဘာသာတွေအပေါ်မှာ ထားရှိတဲ့ ဗုဒ္ဓဘာသာရဲ့ သဘောထားပါပဲ။

မေး။ ။ ဗုဒ္ဓဘာသာဟာ သိပ္ပံနည်းလမ်းကော ကျပါရဲ့လား။

ဖြေ။ ။ ဒီအမေးကို မဖြေခင် သိပ္ပံဆိုတဲ့ဝေါဟာရကို အဓိပ္ပါယ်ဖွင့်ဆိုရင် ပိုကောင်းပါလိမ့်မည်။ အဘိဓာန်အဖွင့်အရ သိပ္ပံဆိုတာ စံနစ်တကျ လေ့လာစူးစမ်းရာကနေ ရရှိအပ်တဲ့ အတတ်ပညာ၊ အသိပညာပဲ ဖြစ်ပါတယ်။ စံနစ်တကျဆိုရာမှာ ယေဘုယျ သဘာဝနိယာမ သဘောတရားတွေကို ဖေါ်ထုတ်ပြီး၊ တကယ်စစ်မှန်တဲ့ အချက်အလက်တွေကို လက်တွေ့ကျကျရှုမြင်၊ စမ်းသပ်မှုတွေကို အားကိုးပြုတဲ့ စံနစ်ပဲ ဖြစ်ပါတယ်။ အဲဒီလို စံနစ်အတွင်း သွင်းယူနိုင်လောက်တဲ့ ပညာနှင့် အတိအကျ သေသေချာချာ လေ့လာ၊ စစ်ဆေးခံနိုင်လောက်တဲ့ အထက်ကဆိုခဲ့တဲ့ တတ်သိပညာတွေရဲ့ ဆင့်ပွားပညာရပ်တွေ အားလုံးဟာ သိပ္ပံပဲ ဖြစ်ပါတယ်။ ဗုဒ္ဓဘာသာမှာ ဒီဖွင့်ဆိုချက်နှင့် မကိုက်ညီလှတဲ့ အတွေးအမြင်၊ အယူအဆတွေလည်း ရှိနေပါတယ်။ ဒါပေမဲ့ ဗုဒ္ဓဝါဒရဲ့ အဓိကကျတဲ့ ဒဿနကတော့ သစ္စာလေးပါးတရားတော် (The Four Noble Truths) ပဲဖြစ်ပြီး ဒီသစ္စာတရားတော်ရဲ့ 'စံ' တွေဟာ သိပ္ပံပညာ ဖွင့်ဆိုချက်တွေနှင့် လုံးဝ ကိုက်ညီလျက် ရှိပါတယ်။ သစ္စာလေးပါးအနက် ပထမဆုံးဖြစ်တဲ့ ဒုက္ခသစ္စာဟာ ရှင်းလင်းပြသနိုင်တဲ့ အတွေ့အကြုံတစ်ရပ်ပါပဲ။ ဒုက္ခ=ဆင်းရဲခြင်း အစစ်အမှန်ဖြစ်တယ်ဆိုတာကို ကိုယ်တွေ့ ခံစားရ၊ ဖြတ်

သန်းလို့ ရနိုင်ပါတယ်။ တိုင်းတာချင့်တွက်လို့လည်း ရနိုင်ပါတယ်။ ဒုက္ခဖြစ်ရခြင်းရဲ့ ပကတိအကြောင်းရင်းခံဖြစ်တဲ့ တဏှာသမုဒယကို ဒုတိယမြောက် အရိယသစ္စာမှာ ဖော်ပြပြီးဒါကိုလည်း ပထမသစ္စာနှင့် အလားတူပဲ ရှင်းလင်းပြသလို့ ရနိုင်တယ်။ ကိုယ်တိုင် ဆုံးစည်းဖြတ်သန်းလို့ ရနိုင်တယ်။ တိုင်းတာချင့်တွက်လို့လည်း ရနိုင်ကောင်းပါတယ်။ ဆန်းပြားရှုပ်ထွေးလှတဲ့၊ ဒါမှမဟုတ် ဒဿနိကဆန်တဲ့ (ပူရာဏ်ကျမ်းလာ) ဝေါဟာရတွေသုံးပြီးယုတ္တိပြ ရှင်းလင်းဖွင့်ဆိုဖို့ ကြိုးစားတာမျိုး လုံးဝ မပါရှိပါဘူး။

တတိယမြောက် အရိယသစ္စာရဲ့ အရကတော့ ဒုက္ခရဲ့ ချုပ်ငြိမ်းရာ (နိဗ္ဗာန်) နိရောဓသစ္စာပါပဲ။ ဒုက္ခရဲ့ ချုပ်ငြိမ်းရာဖြစ်တဲ့ ဒီအဆင့်ကို တန်ခိုးရှင်ကို ခယလို့၊ ယုံကြည်လို့၊ ဝတ်ပြုဆုတောင်းလို့ ရယူနိုင်တာမျိုးမဟုတ်ဘဲ ဒုက္ခဖြစ်ပွားစေတဲ့ အကြောင်းရင်းကိုဖယ်ရှားခြင်းဖြင့်သာ သဘာဝကျကျစွာ ရရှိနိုင်တာ ဖြစ်ပါတယ်။ ဒါဟာ အလွန်တရာမှ ရှင်းလင်း၊ သိသာလှတဲ့ အချက်ပါ။ စတုတ္ထမြောက် အရိယသစ္စာကတော့ ဒုက္ခကို ချုပ်ငြိမ်းစေတဲ့လမ်းစဉ် မဂ္ဂသစ္စာပါပဲ။ ဒုက္ခကို ချုပ်ငြိမ်းစေဖို့ရန် ဘာကိုမှ အားကိုးပြုစရာ မလိုပဲအင်္ဂါရှစ်ပါးရှိတဲ့ လမ်းကိုသာ ကျင့်ကြံအားထုတ်ဖို့ လိုပါတယ်။ ပြီးတော့ အဲဒီ အကျင့်တရားလမ်းစဉ်ရဲ့ လက်တွေ့ကျမှုကို စမ်းသပ်ကြည့်ဖို့လည်း ဗုဒ္ဓဝါဒက လမ်းဖွင့်ပေးထားပါတယ်။ ဖန်ဆင်းရှင်အပေါ် ယုံကြည်၊ အမှီသဟဲပြုမှုတွေကို သိပ္ပံပညာက ပစ်ပယ်သလို ဗုဒ္ဓဝါဒကလည်း လက်သင့်မခံပါဘူး။ ပြီးတော့ စကြာဝဠာရဲ့ မူလ (Origin) နှင့် ပြုဒ္ဓာန်းမှု (working) တွေကို သဘာဝနိယာမ (Natural Law) အရ ဗုဒ္ဓဝါဒက ရှင်းလင်း၊ ပြသပါတယ်။ ဒီအချက်တွေ အားလုံးဟာ ဗုဒ္ဓဝါဒရဲ့ တကယ့် သိပ္ပံနည်းလမ်းကျတဲ့ အတွေး၊ အမြင်တွေပဲ ဖြစ်ကြပါတယ်။ တခါ ဗုဒ္ဓအနေနှင့် လူတွေကို အစဉ်သဖြင့် ရှာတိပေး၊ နိုးဆော်လေ့ရှိတဲ့ အချက်တစ်ခုက "နှိက်နှိက်ချွတ်ချွတ် လေ့လာ၊ စုံစမ်းမှုမရှိပဲ မျက်ကန်းယုံကြည်မှုကို မပြုကြလင့်၊ တစ်စုံတစ်ရာကို လက်ခံယုံကြည်အပ်သည်၊ မခံအပ်သည်ကို မဆုံးဖြတ်မီမေးမြန်းနာယူကြ၊ လေ့လာစစ်ဆေးကြ၊ စူးစမ်းချင့်တွက်ကြ၊ မိမိတို့၏ အတွေ့အကြုံပေါ်၌သာ အားကိုးပြု ဆုံးဖြတ်ကြ" ဆိုတာပဲ ဖြစ်ပါတယ်။ ဒါဟာ ဗုဒ္ဓကိုယ်တိုင်ရဲ့ သိပ္ပံဆန်တဲ့စိန်ခေါ်သံပဲ ဖြစ်ပါတယ်။ ဗုဒ္ဓက အောက်ပါကဲ့သို့ မိန့်တော် မူခဲ့ပါတယ်။

> မြင်ရုံကြားရုံမျှဖြင့် သို့မဟုတ် မိရိုးဖလာ ထုံးစံဖြစ်ကာမျှဖြင့် လက်မခံလေနှင့်၊ ကောလာဟာလကြောင့်၊ သို့မဟုတ် ကျမ်းစာထဲ၌ လာရှိသည်ဟူ၍လည်း လက်မခံလေနှင့်၊ တစ်ဆင့်စကားကြားကာမျှဖြင့်လည်းကောင်း၊ အကြောင်းအကျိုးဆီလျော်မှုရှိကာမျှဖြင့်လည်းကောင်း လက်မခံလေနှင့်၊ ကြံစည်၊ စိတ်ကူးမှုအရ၍လည်းကောင်း သူတပါး၏စွမ်းရည်ကိုအထင်ကြီး၍လည်းကောင်း လက်မခံလေနှင့်၊ ငါတို့၏ ဆရာဖြစ်သည်ဟူသည့် အတွေးနှင့်လည်း လက်မခံလေနှင့်။ ဤအရာ ကောင်းသည်၊ အပြစ်ကင်းသည်၊ ပညာရှိများ ချီးကျူးသည်စသည်တို့ကို

မိမိ ကိုယ်တိုင်သိမြင်၍ လက်တွေ့ကျင့်သုံး၊ ဆည်းပူးသောအခါ နိဗ္ဗာန်သို့ ရှေးရှုပြုရ၏။ ထိုလမ်းသို့ လိုက်ပါလေ"။

ဒါကြောင့် ဗုဒ္ဓဘာသာဟာ သိပ္ပံပညာနှင့် စွပ်ချွတ်တူ၊ မကိုက်ညီသည့်တိုင် သိပ္ပံသဘောသက်ရောက်မှု အပြည့်အဝ ရှိတယ်လို့တော့ ဆိုနိုင်ပါတယ်။ တစ်ခြားဘာသာတွေနှင့်စာရင် ဘယ်ဘာသာထက်မဆို ဗုဒ္ဓဘာသာက ပိုပြီးတော့ သိပ္ပံနည်းကျပါတယ်။ ၂၀–ရာစုခေတ်ရဲ့ သိပ္ပံကဝိတစ်ဦးဖြစ်တဲ့ အဲလ်ဘာတ် အိုင်းစတိုင်းန် (**Albert Einstein**) ရဲ့ ဗုဒ္ဓဘာသာနှင့်ပတ်သတ်တဲ့ အောက်ပါ ထုတ်ဖေါ်ပြောဆိုချက်က ဒီအချက်ကို ပိုမိုခိုင်မာစေပါတယ်။

> " နောင်ပေါ်ထွန်းလာမယ့် ကိုးကွယ်ယုံကြည်မှု ဘာသာတရားဟာ ကမ္ဘာနှင့်အဝှန်း ကျယ်ကျယ်ပြန့်ပြန့်လက်ခံတဲ့ ကမ္ဘာ့ဘာသာရေးမျိုးပဲ ဖြစ်ပါလိမ့်မယ်။ အဲဒီဘာသာရေးဟာ ထာဝရဘုရားဆိုတဲ့ ပုဂ္ဂိုလ်စွဲအယူကို ကျော်လွန်တဲ့ ဘာသာရေးမျိုး ဖြစ်သင့်ပါတယ်။ တယူသန် အစွဲအလမ်း ကင်းရှင်းသင့်တယ်။ ယုတ္တိပြသမှုလောက်မှာ လမ်းဆုံးမနေသင့်ဘူး။ သဘာဝဓမ္မရော၊ ဘာသာရေးဓမ္မကိုပါ သိမ်းကျုံးမိတဲ့ အဲဒီဘာသာတရားဟာ ရုပ်နာမ် ၂–ပါးနှင့်၊ ၎င်းရုပ်နာမ်တရားတို့ရဲ့ နိယာမကျကျ သဟဇာတ ဖြစ်ပျက်တည်ရှိမှုကို ကိုယ်တွေ့ခံစားသိမြင်မှုကနေ ဖြစ်ထွန်းလာတဲ့ သဘောတရားအပေါ်မှာ အခြေပြုရပါလိမ့်မည်။ ဗုဒ္ဓဓမ္မဟာ ဒီ အချက်တွေကို ဖြည့်ဆည်းပေးနိုင်တဲ့ စွမ်းရည်ရှိပါတယ်။ အကယ်၍ မျက်မှောက်ခေတ် သိပ္ပံပညာရဲ့ လိုအပ်ချက်တွေကို ဖြေရှင်းပေးနိုင်တဲ့ ဘာသာတခု ရှိတယ်ဆိုရင် အဲဒီဘာသာဟာ ဗုဒ္ဓဘာသာပဲ ဖြစ်ပါလိမ့်မည်။"

**(ပြီးခဲ့သည့်ထောင်စုနှစ်အတွင်း အကြီးမြတ်ဆုံးစာရင်းဝင် သိပ္ပံပါရဂူ ဒေါက်တာ အဲလ်ဘတ် အိုင်စတိုင်း၏ (၁၉၊ ၀၅၊ ၁၉၃၉–နေ့) အမေရိကန်ပြည်ထောင်စု၊ နယူးဂျာစီပြည်နယ်၊ ပရက်စတန်တက္ကသိုလ်တွင် ဟောပြောခဲ့သော မိန့်ခွန်းကောက်နုတ်ချက်)**

---

၁။ အင်္ဂုတ္တိုရ် ပါဠိတော် ၁၈၈

## အခြေခံ ဗုဒ္ဓဝါဒ

မေး။ ။ ဗုဒ္ဓရဲ့ အဓိကကျတဲ့ လမ်းညွှန်တရားတော်တွေကကော ဘာတွေပါလဲ။

ဖြေ။ ။ ဘီးပိုင်းတစ်ခုရဲ့ ဘီးခွေ (ရိမ်းကွင်း) နှင့် ထောက်တန်းတွေဟာ ပုံတောင်းချက်မှာ ဗဟိုပြုကြသလို ဗုဒ္ဓတရားတော်တွေ အားလုံးဟာ မြင့်မြတ်သော သစ္စာတရား လေးပါးမှာပဲ ဗဟိုပြုကြပါတယ်။

–အဲဒီ သစ္စာတရားဟာ အမျိုးအစားအားဖြင့် လေးမျိုး၊ လေးစားရှိတာကြောင့် လေးပါးလို့ ပြောရတာ ဖြစ်ပါတယ်။

–အဲဒီ တရားကို သဘောပေါက်နားလည်သူဟာ မြင့်မြတ်သူ ဖြစ်လာပါတယ်။ အဲဒါကြောင့် မြင့်မြတ်သောလို့ စိသေသနပြုရတာပါ။

–တကယ့် ပကတိ အဖြစ်အတိုင်းပဲ မှန်ကန်တဲ့အတွက်ကြောင့် အမှန်တရား (သစ္စာ) လို့ ခေါ်ဆိုရတာ ဖြစ်ပါတယ်။

မေး။ ။ ပထမဆုံးသော အရိယာသစ္စာတရားက ဘာပါလဲ။

ဖြေ။ ။ ဘဝဟာ ဒုက္ခသက်သက်ပဲ ဖြစ်တယ်ဆိုတဲ့အချက်ဟာ ပထမအရိယာသစ္စာပါပဲ။ ဘယ်ဘဝမှာပဲ ဖြစ်ဖြစ်၊ ဘဝကစ်ခုခုမှာ ရှင်သန်၊ နေထိုင်တယ်ဆိုရင် ဆင်းရဲခြင်း ဒုက္ခဆိုတာကို မလွဲမသွေ ရင်ဆိုင်ရမှာပါပဲ။ ဒုက္ခတစ်မျိုးမဟုတ် တစ်မျိုးကို မခံစားရဘဲနဲ့တော့ ဘယ်ဘဝမှာပဲ ဖြစ်ဖြစ် ရှင်သန်၊ နေထိုင်လို့ကို မရနိုင်ကောင်းပါဘူး။ မဒီမသာ နာမကျန်းဖြစ်ရမှု၊ ထိခိုက်ဒဏ်ရာရမှု၊ မောပန်းနွမ်းနယ်မှု၊ အိုမင်းရင့်ရော်မှုတွေအပြင် နောက်ဆုံး သေကြေ၊ ပျက်စီးရမှုစတဲ့ ရုပ်ပိုင်းဆိုင်ရာ ဒုက္ခစုတွေနှင့်တကွ အထီးကျန်ဖြစ်ရတာ၊ စိတ်ဓါတ် ကျဆင်းရတာ၊ စိုးရိမ်ပူဆွေးရတာ၊ စိတ်စနိုးစနောင့် မချင့်မရဲဖြစ်ရတာ၊ ဒေါသဖြစ်ရတာတွေလိုမျိုး စိတ်ပိုင်းဆိုင်ရာ ဒုက္ခတွေကိုပါ ဘဝမှာ ရှင်သန်၊ နေထိုင်သူမှန်သမျှ တွေ့ကြုံ၊ ခံစားနေကြရတာပါပဲ။

မေး။ ။ ဒါဟာ အပျက်မြင်ဝါဒ အနည်းငယ် ဆန်မနေဘူးလား။

ဖြေ။ ။ အပျက်မြင်ဝါဒ (Pessimism) ကို အဘိဓာန်မှာ "ဖြစ်စရာ ရှိတာတွေဟာ ဘာပဲဖြစ်ဖြစ် အဆိုးအနေနှင့်ပဲ ဖြစ်ပေါ်လာလိမ့်မည်လို့ တွေးဆင်တတ်တဲ့ အကျင့်၊ ဒါမှမဟုတ် အဆိုးဟာ အကောင်းထက် အင်အားသတ္တိ၊ ရှိကြီးမားတယ်လို့

လို့ ယူဆတဲ့ ယုံကြည်မှုတစ်ရပ်" လို့ ဖွင့်ဆိုပါတယ်။ ဗုဒ္ဓဝါဒဟာ ဒီယူဆပုံ နှစ်မျိုးလုံးနှင့် မနီးစပ်သလို ပျော်ရွှင်၊ ချမ်းမြေ့မှုရှိတယ်ဆိုတာကိုလည်း မငြင်းပါဘူး။ ဘဝမှာ ဘယ်သူကမှ ငြင်းကွယ်လို့ မရနိုင်လောက်အောင်ကို မှန်ကန်ပြီး သိသာလှတဲ့ စိတ်ပိုင်း၊ ရုပ်ပိုင်း ဆိုင်ရာ ဒုက္ခတွေနှင့် ရင်ဆိုင်၊ ဆုံစည်းပြီးတော့ သက်ရှင်နေထိုင်ကြရတာပဲ ဖြစ်တယ်လို့ ရိုးရိုးလွယ်လွယ်လေးပဲ ဗုဒ္ဓဝါဒက ဆိုပါတယ်။ ကမ္ဘာ့ဘာသာတရား အများစုတွေရဲ့ အဓိကကျတဲ့ အခြေခံသဘောတရားတွေဟာ နားလည်ဖို့တောင် ခက်ခဲလှပါတယ်။ ဒါမှမဟုတ် ရှင်းလင်းဖော်ပြဖို့ကို မဖြစ်နိုင်လောက်တဲ့ ဒဏ္ဍာရီတွေ၊ ယုံကြည်ချက် သက်သက်တွေပဲ ဖြစ်ကြပါတယ်။ ဗုဒ္ဓဘာသာမှာတော့ ဘယ်သူမှ မရှောင်လွှဲနိုင်တဲ့ အတွေ့အကြုံတွေကို အခြေပြုပြီး စတင်တယ်၊ လူတိုင်း သိထားကြတဲ့၊ လူတိုင်းတွေ့ကြုံဖြတ်သန်းရတဲ့ အရာ (ဒုက္ခ) နှင့် စတင်တယ်။ ပြီးတော့ ဒီဒုက္ခဆိုတဲ့ အရာကိုပဲ ဒီလူသားတွေ အားလုံးက ကျော်ဖြတ်ဖို့ ကြိုးစားနေကြတာပါ။ အဲဒီလို လူတစ်ဦးချင်းစီတိုင်းနှင့် သက်ဆိုင်ပြီး ပဓာနကျတဲ့ ဒုက္ခနှင့်၊ ဒီဒုက္ခကို ဘယ်လိုဖယ်ရှားကျော်လွှားနိုင်မှာလဲဆိုတဲ့ အချက်ကိုပဲ တန်းတန်းမတ်မတ်၊ စူးစူးစိုက်စိုက် ဟောညွှန်ထားတဲ့အတွက်ကြောင့်မို့လို့ ဗုဒ္ဓဝါဒသည်သာလျှင် တကယ်စစ်မှန်တဲ့ စကြာဝဠာဘာသာ[၁] ဖြစ်ပါတယ်။

မေး။ ။ ဒုတိယမြောက် အရိယသစ္စာတရားတော်က ဘာပါလဲ။

ဖြေ။ ။ ဒုတိယ သစ္စာကတော့ အထက်က ဆိုခဲ့တဲ့ ဒုက္ခဟူသမျှဟာ လိုလားတောင့်တမှု တဏှာသမုဒယအကြောင်းခံကြောင့် ဖြစ်တယ် ဆိုတာပါပဲ။ စိတ်ပိုင်းဆိုင်ရာ ဒုက္ခတွေကို ရှုမြင်သုံးသပ် ကြည့်ရင်ပဲ ဒီစေတသိကဒုက္ခ[၂]တွေဟာ တဏှာကြောင့် ဘယ်နည်း၊ ဘယ်ပုံဖြစ်ပေါ်လာရတယ်ဆိုတာကို သိမြင်ဖို့ မခက်လှပါဘူး။ တစ်စုံတစ် ရာကို တမ်းတမ်းစွဲဖြစ်နေတဲ့အခါ ရနိုင်ခြေလည်း မရှိဘူးဆိုရင် စိတ်ဓာတ်ဟာ ထိုးကျသွားတတ်တယ်၊ တစ်စုံတစ်ယောက်အပေါ် ကိုယ်ကဖြစ်စေချင်သလိုမျိုး ဖြစ်မလာ တဲ့အခါ (ကိုယ့်အလိုပါမလာတဲ့အခါမှာ) လည်း စိတ်ဆင်းရဲ ရတာပါပဲ။ တစ်ခြားလူ တွေက ကိုယ့်ကို လိုလားနှစ်သက်တာ၊ ခုံမင်မြတ်နိုး တန်ဖိုး ထားတွေကို ခံယူလိုပေမဲ့ တကယ့်ဘဝမှာ အဲသည်လိုမျိုးတွေ ဖြစ်မလာတဲ့အခါမှာတော့ ထိခိုက်ခံစားကြရပါ တယ်။ လိုလားတပ်မက်တဲ့အတိုင်း တစ်စုံတစ်ရာကို လက်ဝယ်ပိုင်ပိုင်ရရှိတဲ့ အခါမျိုး မှာတောင် အခါခပ်သိမ်း၊ အပြည့်အဝ၊ ပျော်ရွှင်ကျေနပ်နိုင်သေးတာ မဟုတ်ပါဘူး။ ဘာပြုလို့လည်းဆိုတော့ အဲဒီအရာကို ရရှိပြီး သိပ်မကြာခင်မှာပဲ ဒါကို ငြီးငွေ့လာပြီး စိတ်ဝင်စားမှုတွေ လျော့ပါးသွားတတ်တယ်။ နောက်ထပ် အသစ်အဆန်းတွေကိုပဲ တပ်မက်စ ပြုလာတတ်တယ်။ ဒါ့ကြောင့် ရိုးရိုးကလေး တွေးကြည့်ရင်ပဲ ကိုယ်လိုချင်တဲ့

၁။ လူသားတစ်ရပ်လုံး တစ်ပြေးညီ လက်ခံနိုင်တဲ့ဘာသာ၊ ကမ္ဘာ့လုံးချီ လူသားဘာသာ။
၂။ စိတ်ပူလောင်ဆင်းရဲရမှု

အရာကို ရရှိခြင်းဆိုတဲ့ အချက်ကတောင် နိုင်မာတဲ့ ပျော်ရွှင် ချမ်းမြေ့မှု၊ စိတ်ချရတဲ့ ကျေနပ်၊ နှစ်သက်မှုမျိုးကို ဖြည့်စွမ်းမပေးနိုင်ပါဘူး။ ဒါဟာ ဒုတိယ သမုဒယသစ္စာရဲ့ အဓိပ္ပါယ်ပဲ ဖြစ်ပါတယ်။ ဒီတော့ ကိုယ်လိုချင်တဲ့အရာကို ရယူနိုင်ရေးတစ်ခုတည်းအတွက်ချည်း တစိုက်မတ်မတ် ရှာကြံရေးထက် အဲဒီ လိုချင်မှုကိုပဲ ထိန်းချုပ်ဖို့ ကြိုးစားပေတော့။ အဲဒီ လိုချင်မှုဆိုတာကပဲ လူရဲ့ ကျေနပ်ရောင့်ရဲမှုနှင့်၊ ပျော်ရွှင်ချမ်းမြေ့မှုတွေကို လျော့ပါးပျောက်ဆုံးစေတာ ဖြစ်ပါတယ်။

မေး။ ။ ဒီလိုချင်မှု ဆန္ဒနှင့်၊ တောင့်တမှုတဏှာတွေက ဘယ်လိုလုပ်ပြီး ရုပ်ပိုင်း၊ ကာယိက ဒုက္ခတွေကို ဖြစ်ပွားစေပါသလဲ။

ဖြေ။ ။ ဟိုဟာပြီး ဒီဟာ၊ ဒီဟာပြီးတော့ ဟိုဟာစသည်ဖြင့် ဘဝသက်တမ်းနှင့်အမျှ လိုချင်တက်မက်မှုတွေက အထူးသဖြင့် တဏှာက သတ္တဝါတစ်ဦးမွေးဖွား၊ ပေါ်ပေါက်စေလောက်တဲ့ သတ္တိပြည့်၊ စွမ်းအင်တစ်ရပ်ကို ဆက်တိုက်ဖြစ်စေဖို့ရန် ဖန်တီးပေးပါတယ်။ ဒီလိုနှင့် ပြန်လည်မွေးဖွားလာတော့ ကိုယ်ခန္ဓာဆိုတာကို ပိုင်ဆိုင်ရရှိလာကြတာတာ ဖြစ်ပါတယ်။ ရှေ့မှာ ဆွေးနွေးခဲ့တဲ့အတိုင်းပဲ ခန္ဓာအိမ်ကို ရလာတာဟာ ဒါဏ်ရာအနာတရတွေ၊ ရောဂါဘယဖြစ်ပွား၊ ကျရောက်မှုတွေကို မုချ ရလွယ်၊ ဖြစ်လွယ်တဲ့ ခန္ဓာ ဖြစ်ပါတယ်။ အလုပ်ဒါဏ်ကြောင့်လည်းပဲ ပင်ပန်းမောဟိုက်ပြီးတော့ ဆင်းရဲနိုင်တယ်၊ အိုမင်း၊ ရင့်ရော်မှုဒဏ်ကိုလည်း ခံစားရတယ် နောက်ဆုံးမှာတော့ သေခြင်းတရားနှင့် နိဂုံးချုပ်ရတာပါပဲ။ ဒါဟာ ဘဝသစ်တွေကို ဖြစ်စေနိုင်စွမ်းတဲ့အတွက်ကြောင့် လိုချင်မှု၊ တဏှာက ကာယိကဒုက္ခတွေကို ဖြစ်ပွားစေပုံ ဖြစ်ပါတယ်။

မေး။ ။ ဟုတ်ပါပြီ၊ ဒီအတိုင်းသာဆိုရင် လိုလားမှုကို ရပ်ဆိုင်းလိုက်တာနှင့် တစ်စုံတစ်ရာကို ဘယ်တော့မှလည်း ရစရာလမ်း မရှိတော့ပါဘူး။ ဒါမှမဟုတ် အောင်မြင်မှုဆိုတာလည်း ဘယ်တော့မှ ရှိကြတော့မှာ မဟုတ်တော့ဘူးပေါ့။

ဖြေ။ ။ ဟုတ်ပါတယ်။ ဒါပေမဲ့ ဒီနေရာမှာ ဗုဒ္ဓဟောတော်မူတာက လိုချင်မှုတွေ၊ တပ်မက်မှုတွေ၊ ကိုယ့်မှာ ရှိနှင့်ပြီးသားနှင့် ဘယ်တော့မှ မတင်းတိမ်မှုတွေ၊ ပြီးတော့ ပို၍ ပို၍ ပိုင်ဆိုင်လိုမှုတွေက ဒုက္ခအထွေထွေကိုပဲ ဖြစ်ပွားစေပါတယ်။ ဒါကြောင့် ဒီ လိုချင်မှုကာမစ္ဆန္ဒတွေ လိုလားတောင့်တမှု၊ ကာမတဏှာတွေကိုတော့ ရပ်ဆိုင်းပစ်သင့်တယ်လို့ ဟောတော်မူပါတယ်။ ဗုဒ္ဓက လိုအပ်မှု[1]နှင့်၊ လိုချင်မှု[2]ကို ခွဲခြားပြီး သိကြဖို့၊ ပြီးတော့ လိုအပ်တာတွေကို ကြိုးစားရှာဖွေ၊ ဖြည့်ဆည်းကြဖို့နှင့် လိုချင်တာတွေကိုတော့ တစ်စတစ်စ လျော့ချပြီး ပြုပြင်သွားကြဖို့ ဆုံးမတော်မူပါတယ်။ လိုအပ်ချက်ကို ဖြည့်ဆည်းပေးလို့ ရနိုင်ကောင်းပါရဲ့၊ ဒါပေမဲ့ လိုချင်တာကျတော့ အဆုံးမဲ့ ချောက်တွင်းလိုပဲတဲ့။ (ဘယ်တော့မှ ဖြည့်မပြည့်နိုင်ပါဘူး) မရှိမ

---

၁။ အခြေအနေတစ်ခုအတွက် မရှိမဖြစ်လိုအပ်မှု (=Need)
၂။ အတောမသတ်နိုင်သည့် ဆန္ဒနိုင်ငံသို့ လိုက်မှု (=Want)

ဖြစ်တဲ့၊ အခြေခံကျတဲ့၊ ဖြည့်ဆည်းပေးလို့လည်း ရနိုင်ကောင်းတဲ့ လိုအပ်ချက်တွေဆိုတာ ရှိတတ်ပါတယ်။ အဲဒါတွေ အတွက်တော့ ကြိုးစားကြဖို့ သင့်ပါတယ်။ အဲဒီ နယ်ပယ်ကို ကျော်လွန်တဲ့ ဆာလောင်၊ မွတ်သိပ်မှုတွေကျတော့ တစ်စတစ်စ လျော့ပါးသွားအောင်ပဲ ကြိုးစားသင့်ကြပါတယ်။ လိုရင်းပြောရရင်–ဘဝရဲ့ အဓိပ္ပါယ်၊ ဘဝရဲ့ ရည်ရွယ်ရင်းက ဘာတဲ့လဲ။ ကျေနပ်၊ နှစ်သိမ့်မှုရှိပြီး ပျော်ရွှင်၊ ချမ်းမြေ့ဖို့ပဲ မဟုတ်ပေဘူးလား။

မေး။ ။ နောင်ဘဝနှင့် ပတ်သတ်လို့ စကားစပ်မိပြီဆိုတော့ နောင်ဘဝရှိကြောင်း နိုင်လုံတဲ့ အထောက်အထားတွေ၊ ဘာတွေကော ရှိပါသလား။

ဖြေ။ ။ ရှိပါတယ်။ အထောက်အထားတွေ တစ်ပုံကြီးပါပဲ။ ဒါပေမဲ့ ဒီကိစ္စကို နောက်မှ ကျယ်ကျယ်ပြန့်ပြန့် ဆွေးနွေးကြရအောင်။

မေး။ ။ တတိယမြောက် အရိယသစ္စာက ဘာပါလဲ။

ဖြေ။ ။ တတိယသစ္စာကတော့ ဒုက္ခကို ကျော်လွန်လို့ ရနိုင်တယ်၊ ဒုက္ခကိုကျော်လွန်ပြီးရင် သုခချမ်းသာကိုလည်း ရနိုင်တယ်ဆိုတဲ့ အချက်ပါပဲ။ ဒီသစ္စာဟာ သစ္စာလေးပါးအနက် အရေးအပါဆုံးလည်း ဖြစ်ပါတယ်။ အကြောင်းက ဒီ သစ္စာအရ–ဗုဒ္ဓက စစ်မှန်တဲ့ သုခ္ခ်သုခ (နိဗ္ဗာန်ချမ်းသာ) နှင့် ကျေနပ်၊ နှစ်သက်မှုဆိုတာတွေဟာ တကယ်ဖြစ်နိုင်ကြောင်း အာမခံချက် ပေးထားလို့ပါပဲ။ ဘဝမှာ ကြုံရ၊ ဆုံရတတ်တဲ့ ခံစားမှု၊ ကာမဂုဏ်အာရုံတွေကို အကန့်အသတ်မဲ့ တောင့်တ၊ မျှော်လင့်တာမျိုးတွေ မရှိစေပဲ ပျော်ရွှင်ချမ်းမြေ့စွာ၊ ဘဝမှာ ဝင်လာတတ်တဲ့ အခက်အခဲတွေကို ကြောက်ရွံ့စိုးရိမ်မှုတွေ၊ မနာလိုအမုန်းပွားမှုတွေ၊ စိုးရိမ်၊ ဒေါ်သတာတွေနှင့် မတုံ့ပြန်ပဲ ခန္တီဓါနှင့် တည်တည်ငြိမ်ငြိမ် ကြံ့ကြံ့ခံပြီးတော့ အကျိုးမဲ့လှတဲ့ ဆာလောင်မွတ်သိပ်မှု တဏှာကို ပယ်စွန့်ပြီး နေ့စဉ်ဘဝမှာ မမေ့မလျော့ နေတတ်၊ ထိုင်တတ်လာအောင် လေ့လာ၊ ကျင့်သုံးသွားမယ်ဆိုရင်တော့ ဘဝမှာ ပျော်ပျော်ရွှင်ရွှင်၊ လွတ်လွတ်လပ်လပ်ရှိမှာ အမှန်ပါပဲ။ အဲဒီတော့မှ ဘဝဟာ ပြည့်စုံတဲ့ အဓိပ္ပါယ်ကို ဆောင်လိမ့်မယ်။ မိမိ တစ်ဦးတည်းရဲ့ တစ်ကိုယ်ကောင်းဆန်တဲ့ လိုအင်ဆန္ဒတွေကိုချည်း ဖြည့်ဆည်းပေးနေဖို့ သိပ် အချိန်မလိုတော့တဲ့အတွက် ကိုယ့်ပတ်ဝန်းကျင်က တကယ့် အကူအညီလိုသူတွေကို ကူညီဖို့ အချိန်တွေ ပိုရလာမယ်။ ဒီအခြေအနေကိုလည်း ငြိမ်းချမ်းမှု နိဗ္ဗာန်[၁]လို့ခေါ်တာပါပဲ။ အလားတူပဲ စိတ်ပိုင်းဆိုင်ရာ စေတသိကဒုက္ခတွေအားလုံးကနေ လွှတ်မြောက်သွားပြီဆိုရင်တော့ ဒါဟာ တကယ့် နိဗ္ဗာန် အစစ်ပါပဲ။

မေး။ ။ နိဗ္ဗာန်ဆိုတာ ဘာလဲ။ နိဗ္ဗာန်ဟာ ဘယ်နေရာမှာ တည်ရှိပါသလဲ။

၁။ ဒိဋ္ဌဓမ္မနိဗ္ဗာန (မျက်မှောက်ဘဝ ချမ်းသာ) ကို ဆိုလိုသည်။ (မာဂဏ္ဍီယသုတ်)

ဖြေ။ ။ နိဗ္ဗာန်ဆိုတာ ကာလ၊ ဒေသတွေနှင့် မဆိုင်တဲ့ ကာလ၊ ဒေသလွန် အခြေအနေတစ်ရပ်ပဲ ဖြစ်ပါတယ်။ ဒါကြောင့် နိဗ္ဗာန်နှင့် ပတ်သက်လို့ ပြောဆိုဆွေးနွေးဖို့ ဒါမှမဟုတ် စဉ်းစား၊ တွေးဆကြည့်ဖို့ဆိုတာတောင် အတော်လေး ခက်ခဲပါတယ်။ စကားလုံးတွေနှင့် တွေးဆမှုတွေဆိုတာ ကာလ၊ ဒေသအခြေအနေတစ်ရပ်ကို ဖော်ပြဖို့ အတွက်လောက်သာ လုံလောက်ပါတယ်။ အချိန်ကာလနှင့် မသက်ဆိုင်လို့ ကာလလွန် အခြေအနေဖြစ်တဲ့ နိဗ္ဗာန်ဟာ ရွေ့လျောမှုသဘော မရှိပါဘူး။ (မရွေ့မလျော့ပဲ တည်မြဲတဲ့သဘော–အစ္စုတ္တပဲ ဖြစ်ပါတယ်)။ အိုမင်းရင့်ရော်မှု၊ သေကြေပျက်စီးရမှုတွေ မရှိတဲ့သဘော–အစ္စုတလည်း ဟုတ်ပါတယ်။ ဒီလိုနှင့် နိဗ္ဗာန်ဆိုတာ ထာဝရသဘော ဖြစ်ပါတယ်။ ဒေသနှင့် မသက်ဆိုင်တဲ့အတွက် အကြောင်းတရားလည်းကင်း၊ အပိုင်းအခြားလည်း ကင်းပါတယ်။ ဒါကြောင့် နိဗ္ဗာန်ဆိုတာ အတ္တလည်း မဟုတ်၊ အနတ္တလည်း မဟုတ်တဲ့၊ ကန့်သတ်လို့ မရကောင်းတဲ့ အနန္တသဘောပဲ ဖြစ်ပါတယ်။ ဗုဒ္ဓကတော့ နိဗ္ဗာန်ဟာ အမြင့်မြတ်ဆုံးသောချမ်းသာ မဟာသန္တိသုခ ဖြစ်ကြောင်း "နိဗ္ဗာနံ ပရမံ သုခံ[၁]"လို့ မိန့်တော်မူခဲ့ပါတယ်။

မေး။ ။ ဒါပေမဲ့ အဲသည်လိုမျိုးသဘောကို ဆောင်တဲ့ အခြေအနေတစ်ရပ် ရှိတယ်ဆိုတဲ့ အထောက်အထားကော ရှိပါသလား။

ဖြေ။ ။ ဒီလို အထောက်အထားမျိုးတော့ မရှိပါဘူး။ သို့သော် နိဗ္ဗာန်ရှိတယ်ဆိုတာကို ကောက်ချက်ချနိုင်ပါတယ်။ ကာလ၊ ဒေသပြဋ္ဌာန်းတဲ့ အတိုင်းအဆ တစ်ရပ်ရှိပြီး၊ လက်တွေ့မျက်မြင်၊ ဒိဋ္ဌမှုဖြစ်တဲ့ ဒီကမ္ဘာကြီးမှာ ကာလ၊ ဒေသပြဋ္ဌာန်းတာကို ထောက်ရင် အဲသည်လိုမျိုး ကာလ၊ ဒေသမပြဋ္ဌာန်းတဲ့ အတိုင်းအဆ၊ အနေအထား တစ်ရပ်လည်း ရှိမှာပဲလို့ ကောက်ချက်ဆွဲလို့ ရပါတယ်။ ဒါ့အပြင် နိဗ္ဗာန်ရှိကြောင်း အထောက်အထား၊ အခိုင်အမာမပြနိုင်သည့်တိုင်အောင် နိဗ္ဗာန်ရှိကြောင်း ဟောတော်မူခဲ့တဲ့ ဗုဒ္ဓမြွက်ဆိုချက်စကားတော်တွေ ရှိပါသေးတယ်။ ဗုဒ္ဓက–

"မမွေးဖွားတော့ခြင်း–အဇာတိ၊ မဖြစ်ပေါ်တော့ခြင်း–အနုပ္ပါဒ၊ မပြုပြင်၊ မစီရင်ရခြင်း–အသင်္ခတ၊ မစုဝေး၊ မပေါင်းဆုံတော့ခြင်း–အသန္တိစယဖြစ်တဲ့ တစ်ခုသောမွေသည် ရှိ၏။ အကယ်၍သာ ဤအဇာတိ၊ အနုပ္ပါဒ၊ အသင်္ခတနှင့် အသန္တိစယသဘောတို့သည် မရှိကြငြားအံ့၊ မွေးဖွားမှု ဇာတိ၊ ဖြစ်ပေါ်မှု ဥပ္ပါဒ၊ ပြုပြင်စီရင်မှု သင်္ခတ၊ ပေါင်းဆုံ၊ စုစည်းမှု သန္တိစယတို့မှ လွတ်မြောက်ခြင်း ဝိမုတ္တိ (နိဗ္ဗာန်)

---

၁။ ဓမ္မပဒ ၂၀၄

ဟူ၍လည်း မရှိနိုင်ပေရာ။ စင်စစ်မူကား အဇာတိ၊ အနုပ္ပါဒ၊ အသင်္ခတ၊ အသန္တိစယတို့ (အမှန်တကယ်) ရှိကြသည်သာ ဖြစ်သောကြောင့် ဇာတိ၊ ဥပ္ပါဒ၊ သင်္ခတနှင့် သန္တိစယတည်းဟူသော သံသရာမှ လွတ်မြောက်ခြင်း ဝိမုတ္တိ (နိဗ္ဗာန်) ကို သိမြင်၊ ရရှိနိုင်သည်သာတည်း[၁]" လို့ မိန့်တော်မူခဲ့ပါတယ်။

နိဗ္ဗာန်ကို ကိုယ်တိုင် ပေါက်မြောက်ရရှိလာတဲ့ အခါမှသာ ကောင်းစွာ နားလည်သိမြင်လာမှာ ဖြစ်ပြီး၊ နိဗ္ဗာန် မရမချင်းမှာတော့ ပဓာန အလုပ်ဖြစ်တဲ့ ဓမ္မအရေး အားထုတ်မှုကိုပဲ ဆက်လက် လုပ်ဆောင်ရပေလိမ့်မယ်။

မေး။ ။ လေးခုမြောက် အရိယသစ္စာကကော ဘာပါလိမ့်။

ဖြေ။ ။ လေးခုမြောက် အရိယာသစ္စာကတော့ ဒုက္ခမှ လွတ်မြောက်ရာသို့ ဦးတည်တဲ့ လမ်းစဉ်ဖြစ်တယ်။ အဲဒါကိုပဲ အချက်အလက်အင်္ဂါရပ် ရှစ်ခုပါဝင်တဲ့အတွက် အဋ္ဌင်္ဂိကမဂ်လို့ ခေါ်တွင်ပြီး အဲဒီအထဲမှာ သမ္မာဒိဋ္ဌိ–မှန်ကန်စွာ သိမြင်ခြင်း၊ သမ္မာသင်္ကပ္ပ–မှန်ကန်စွာ ကြံစည်ခြင်း၊ သမ္မာဝါစာ–မှန်ကန်စွာ ပြောဆိုခြင်း၊ သမ္မာကမ္မန္တ–မှန်ကန်စွာ ပြုလုပ်ဆောင်ရွက်ခြင်း၊ သမ္မာအာဇီဝ–မှန်ကန်စွာ အသက်မွေးခြင်း၊ သမ္မာဝါယာမ–မှန်ကန်စွာ အားထုတ်ခြင်း၊ သမ္မာသတိ–မှန်ကန်စွာ သတိရှိခြင်း၊ သမ္မာသမာဓိ–မှန်ကန်စွာ တည်ကြည်ခြင်း တို့ဖြစ်ပါတယ်။ ဗုဒ္ဓဘာသာ ကျင့်စဉ်ထဲမှာ အဲဒီရှစ်ပါးဟာ အဓိကအားဖြင့်ပါဝင်ပြီး အဲဒီကျင့်စဉ် ရှစ်ပါးကိုပဲ ပြည့်စုံသည်ထက် ပြည့်စုံအောင် ကြိုးစား၊ ကျင့်ဆောင်ရပါတယ်။ ပညာရေး၊ ကိုယ်ကျင့်စာရိတ္တ၊ လူမှုရေး၊ စီးပွားရေးနှင့် စိတ်ဓါတ်ရေးရာစတဲ့ ဘဝရဲ့ အရေးပါတဲ့ စာမျက်နှာအသီးသီးမှာ မဂ္ဂင်ရှစ်ပါးဟာ အဓိက နေရာက ပါဝင်နေတာကို တွေ့မြင်နိုင်ပါတယ်။ ဒါကြောင့် လူတစ်ဦး ကောင်းမွန်တဲ့ ဘဝတည်ဆောက်ဖို့နှင့်၊ စိတ်ဓါတ် အဆင့်အတန်း မြင့်မားလာဖို့အတွက် လိုအပ်တဲ့အရာတွေ အားလုံးဟာ မဂ္ဂင်ရှစ်ပါးထဲမှာ ပါဝင်ပါတယ်။

---

၁။ ဥဒါနပါဠိတော် ၈၀

## ဖန်ဆင်းရှင် အယူဝါဒနှင့်၊ ဗုဒ္ဓဝါဒ

မေး။ ။ ဗုဒ္ဓဘာသာဝင်တွေဟာ ဖန်ဆင်းရှင် (God) ဘုရားသခင်ကို လက်ခံကြပါသလား။

ဖြေ။ ။ လက်မခံကြပါဘူး။ ဒီအတွက် အကြောင်းအချက်တွေ အများကြီးပဲ ရှိပါတယ်။ ဘာသာကိုးကွယ်ရေးနှင့်သက်ဆိုင်တဲ့ အတွေးအခေါ် (Religious Idea) တွေ အထူးသဖြင့် ဖန်ဆင်းရှင်အယူအဆ (The God idea) ဟာ ကြောက်ရွံ့စိုးရိမ်ခြင်းကနေပြီး စတင်ပေါ်ပေါက်လာခဲ့တာ ဖြစ်တယ်လို့ ခေတ်သစ်လူမှုရေး ပညာရှင်တွေ၊ စိတ်ပညာရှင်တွေ ယူဆကြသလိုပဲ ဗုဒ္ဓကလည်း ဒီအတိုင်း ယူဆတော်မူခဲ့ပါတယ်။

> ဗဟုံ ဝေသရဏံ ယန္တိ၊ ပဗ္ဗတာနိ ဝနာနိစ၊
> အာရာမရုက္ခစေတျာနိ ၊ မနုဿာ ဘယတဇ္ဇိတာ[၁]။

ကြောက်စိတ်မွှန်းနေတဲ့ လူတွေဟာ သူတို့ အထွဋ်အမြတ်ထားတဲ့ တော၊ တောင်၊ သစ်ပင်ကြီးတွေဆီ သွားကြတယ်။ သူတို့ ကိုးကွယ်ရာ စေတီတွေဆီ ချဉ်းကပ်ကြတယ်။

ရှေးဦးလူဟာ သူ့အဖို့ ရန်အန္တရာယ်တွေ ဝိုင်းနေတယ်ဆိုတာကို သိရှိ၊ ခံစားခဲ့ရတယ်။ သားရဲတိရစ္ဆာန်ကို ကြောက်ရတယ်။ အစာ၊ ရေစာမပြည့်စုံမှု ထိခိုက်ဒဏ်ရာရရှိမှုနှင့် ရောဂါဘယကျရောက်မှုစတာတွေကို တွေးပူရတယ်။ မိုးကြိုးပစ် လျှပ်စီးလက်တာ၊ မီးတောင်ပေါက်ကွဲတာစတာတွေလို အစဉ်သဖြင့် ကြုံရတတ်တဲ့ သဘာဝ အန္တရာယ်တွေကိုလည်း ကြောက်ရွံ့ခဲ့ရတာပါပဲ။ ဒီလိုနှင့် လုံခြုံစိတ်ချရမှုကို ဘယ်မှာမှ ရှာမတွေ့နိုင် ဖြစ်နေတဲ့ ရှေးဦးလူဟာ ဖန်ဆင်းရှင် အယူအဆကို တွေးဆယူခဲ့တာပဲ ဖြစ်ပါတယ်။ ရည်ရွယ်ရင်းကတော့ အေးအေးလူလူ နေလို့ရတဲ့ အခြေအနေမျိုးမှာ ချမ်းမြေ့၊ ပျော်ရွှင်စေဖို့၊ အန္တရာယ်နှင့် ရင်ဆိုင်ရတဲ့အခါ စွမ်းအားသတ္တိတွေကို ဖြည့်ဆည်းပေးဖို့နှင့် ကသောင်းကနင်းအခြေအနေမှာ သက်သက်ရာရစေတဲ့ နှစ်သိမ့်မှုပေးဖို့ အတွက်ပါပဲ ယနေ့ မျက်မှောက်ခေတ်မှာလည်းပဲ လူတွေဆိုတာ အကျပ်အတည်းဆိုက်တဲ့ အခါမျိုးမှာသာ ပိုပြီးတော့ ဘာသာရေးသမားတွေ ဖြစ်လာတတ်ကြတာ တွေ့နိုင်ပါတယ်။ ဘုရားတစ်ဆူ ဒါမှမဟုတ် ဘုရားအ

---

၁။ ဓမ္မပဒ ၁၈၈

များအပြား ကိုးကွယ်ခြင်းဖြင့် ဘဝကိုရင်ဆိုင်ရာမှာ လိုအပ်တဲ့အခါ ဆုတောင်းတယ်၊ တောင်းတဲ့အတိုင်းလည်း ပြည့်တဲ့အတွက် အဲဒီဘုရားကိုပဲ အထူးပြုကိုးကွယ်ကြတာ ဖြစ်တယ်ဆိုတဲ့ ရှင်လင်းချက်ပေးတာကိုလည်း ကြားမိပါလိမ့်မယ်။ ဒီအချက်တွေ အားလုံးကဖန်ဆင်းရှင်(ဣဿရိယနိမ္မာန) ဝါဒဟာ ကြောက်ရွံ့ခြင်းနှင့်၊ စိုးရွံ့သိမ်ငယ်ခြင်းတွေကိုတုန့်ပြန်တဲ့အနေနှင့် ပေါ်လာတာပဲ ဖြစ်တယ်ဆိုတဲ့ ဗုဒ္ဓဒေသနာတော်ရဲ့ အဆိုအမိန့်ကိုထောက်ခံချက်ပးနေကြသလိုပါပဲ။

ဗုဒ္ဓဟာ အကြောက်တရားတွေကို နားလည်သဘောပေါက်လာအောင် ကြိုးစားကြဖို့၊ လောဘရမ္မက်တွေကို လျော့ချကြဖို့နှင့်၊ ဘယ်လိုမှ အပြောင်းအလဲ လုပ်မရနိုင်တာတွေအတွက် အရှိကို အရှိအတိုင်း တည်တည်ငြိမ်ငြိမ်၊ သတ္တိရှိရှိ ရင်ဆိုင်တတ်လာဖို့ လူသားတွေကို သွန်သင်ပေးတော်မူခဲ့ပါတယ်။ ဗုဒ္ဓဟာ လူသားတွေရဲ့ အကြောက်တရားတွေကို သဘာဝမကျတဲ့ မျက်ကန်းယုံကြည်မှုနှင့် အစားမထိုးခဲ့ပါဘူး။ အကြောင်းအကျိုးဆီလျော်တဲ့ နားလည်သဘောပေါက်မှု ပညာနှင့်သာ အစားထိုး ဖြေသိမ့်ပေးတော်မူခဲ့ပါသည်။

ဖန်ဆင်းရှင် (God) ကို ဗုဒ္ဓ လက်မခံရတဲ့ ဒုတိယ အကြောင်းတရားကတော့ ဒီအယူအဆကို လက်ခံနိုင်လောက်တဲ့ အထောက်အထား တစ်စုံတစ်ရာ မရှိလို့ပါပဲ။ သူတို့တွေရဲ့ ကျမ်းစာတွေထဲမှာသာ ဖန်ဆင်းရှင်းရဲ့ ဒေသနာတော်တွေကို ထည်းသွင်း၊ သိမ်းဆည်းထားတယ်၊ သူတို့ကပဲ ဖန်ဆင်းရှင်ရဲ့ သဘောသဘာဝတွေကို နားလည်သဘောပေါက်ကြတာ ဖြစ်တယ်။ သူတို့ရဲ့ ဖန်ဆင်းရှင်ကသာ အမှန်တကယ် ဖြစ်တည်လျက် ရှိတယ်။ တခြားဘာသာတွေမှာကျတော့ ဖန်ဆင်းရှင်ဟာ တကယ်ရှိတာ မဟုတ်ဘူးဆိုပြီး ပြောနေကြတဲ့ ဘာသာတွေကတော့ တစ်ပုံတစ်ပင်ကြီးပါပဲ။ တစ်ချို့ဘာသာတွေက ဖန်ဆင်းရှင်ဟာ အဖိုဓါတ် (ပုလ္လိင်) ဖြစ်တယ်လို့ ဆိုကြတယ်။ နောက်တစ်ချို့က ဖန်ဆင်းရှင်ဟာ အမဓါတ် (ဣတ္ထိလိင်) ဖြစ်တယ်လို့ ဆိုကြပြန်တယ်။ နောက်တစ်ချို့က ဖန်ဆင်းရှင်ဟာ အဖိုလည်းမဟုတ် အမလည်းမဟုတ်တဲ့ နပုလ္လိင်သာ ဖြစ်တယ်လို့ ဆိုကြပါတယ်။ ဒီ ဘာသာရေးတွေအားလုံး သူတို့ဘုရား အမှန်တကယ်ရှိကြောင်း ခိုင်လုံတဲ့ အထောက်အထားတွေ တစ်ပုံကြီးရှိတယ်ဆိုပြီး ကျေနပ်အားရနေကြပေမဲ့ တစ်ခြားဘာသာတွေမှာလည်း သက်ဆိုင်ရာဘာသာအလိုက် ဘုရားကိုယ်စီ ရှိကြကြောင်း ပြသတဲ့ အထောက်အထားတွေကျတော့ ပျက်ရည်ပြုကြပါတယ်။ ဘာသာအမျိုးမျိုးတွေဟာ စစ်မှန်တဲ့ ခိုင်မာပြီး အရေးပါတဲ့၊ အငြင်းသာတဲ့ အထောက်အထားဆိုလို့ တစ်စုံတစ်ခုမှ မတွေ့ရှိရသေးတာတောင်မှပဲ သူတို့တွေရဲ့ ဘုရားတွေ အမှန်တကယ်ရှိကြတယ်ဆိုတာ အတည်ဖြစ်စေဖို့ ကြိုးစားရင်း ရာစုနှစ်ပေါင်းများစွာ အချိန်ဖြုန်းလာခဲ့ကြတာ ဆန်းတော့ မဆန်းလှပါဘူး။ ဗုဒ္ဓဝါဒီတွေအနေနှင့် ခိုင်မာတဲ့ အထောက်အထား မရမချင်း ဖန်ဆင်းရှင်ဝါဒကို လက်မခံနိုင်ပါဘူး။

ဖန်ဆင်းရှင်ဝါဒကို ဗုဒ္ဓ လက်မခံရတဲ့ တတိယအကြောင်းတရားကတော့

ဒီလိုမျိုး ယုံကြည်မှုတွေဟာ မလိုအပ်တဲ့ အတွက်ကြောင့်ပါပဲ။ တစ်ချို့ကတော့ စကြာဝဠာကြီးရဲ့အစကို ရှင်းပြဖို့အတွက် ဖန်ဆင်းရှင်ဘုရား လိုအပ်တယ်လို့ အဆိုပြုကြတယ်။ ဒါပေမဲ့ ဒါဟာ ပြောသလောက် အမှန်နှင့် နီးစပ်တာတော့ဖြင့် မဟုတ်ပါဘူး။ သိပ္ပံပညာက စကြာဝဠာကြီး ဘယ်လို ပေါ်ထွန်းခဲ့တယ်ဆိုတာကို ဖန်ဆင်းရှင်ဝါဒနှင့် လုံးဝ ဆက်စပ်မှုမရှိပဲ ကျေကျေလည်လည် ရှင်းလင်း၊ ဖော်ပြထားပြီးပါပြီ။ ပျော်ရွှင်ချမ်းမြေ့ပြီး အဓိပ္ပါယ်ရှိတဲ့ ဘဝတစ်ခု ပိုင်ဆိုင်ဖို့အတွက် ဖန်ဆင်းရှင်အပေါ် ယုံကြည်မှုရှိမှ ဖြစ်မယ်လို့ ဆိုသူတွေလည်း ရှိပါတယ်။ ဒါဟာလည်း ဒီအတိုင်းမဟုတ်ဘူးဆိုတာ လူတိုင်းသိသာနိုင်တဲ့ ကိစ္စပဲ ဖြစ်ပါတယ်။ မြောက်များစွာသော ဗုဒ္ဓဘာသာဝင်များအပြင် သန့်နှင့်ချိတဲ့ ဘုရားမဲ့ဝါဒီတွေနှင့် လွတ်လပ်စွာ တွေးခေါ်သူတွေ အားလုံးဟာ ဖန်ဆင်းရှင်အပေါ် ယုံကြည်မှုမရှိကြပဲနှင့် တန်ဖိုးရှိရှိ ပျော်ပျော်ရွှင်ရွှင်နှင့် ဘဝအဓိပ္ပာယ်ပြည့်ဝစွာ နေထိုင်လျက် ရှိကြပါတယ်။ တစ်ချို့က ဒီလို လာသေးတယ်။ အားနည်းတဲ့ လူသားဟာ သူ့ဟာ သူ ကူညီကယ်မဖို့ရာ အင်းအား တောင့်တင်းမှုမရှိတဲ့အတွက် ဘုရားသခင်ရဲ့ တန်ခိုး သတ္တိစွမ်းအင်တွေအပေါ် ယုံကြည်အားထားဖို့ လိုအပ်တယ်တဲ့။ ဒီ အယူအဆဟာလည်း သဘာဝ မကျလှပါဘူး။ သုံးမရလောက်အောင် ကိုယ်လက်အင်္ဂါ မသန်စွမ်းသူတွေ၊ ကြီးမားတဲ့ အနှောင့်အယှက်၊ အဟန့်အတား ပြဿနာရပ်တွေနှင့် ရင်ဆိုင်နေရသူတွေဟာ ဘယ်ဘုရားကိုမှ ယုံကြည်ချက်မရှိဘဲနှင့် သူတို့ ကိုယ်ပိုင် စွမ်းအင်၊ ကိုယ်ပိုင် ရုန်းကန်လှုပ်ရှားမှုတွေ သက်သက်နှင့်ပဲ အဲဒီ အရာတွေကို ဖြေရှင်း၊ ကျော်လွှားသွားနိုင်ကြတယ်ဆိုတဲ့ ပုဂ္ဂိုလ်တွေရဲ့ ဖြစ်ရပ်တွေကိုလည်း မကြာခဏကြား သိကြရမှာပါ။ လူကို ကယ်မ၊ စောင့်ရှောက်ပေးဖို့အတွက် ဖန်ဆင်းရှင်ဘုရားဟာ လိုအပ်တယ်လို့ တစ်ချို့က ဆိုလာပြန်သေးတယ်။ ဒီ အတွေးကတော့ တက္ကိကဆန်တဲ့ ကယ်တင်ခြင်း အယူအဆ[၁]ကို လက်ခံ၊ ယုံကြည်ထားသူအတွက်သာ ကိုက်ညီမှာပါ။ ဗုဒ္ဓဘာသာဝင်တွေကတော့ အထက်ပါအဆိုကို လက်သင့်မခံကြပါဘူး။ မိမိရဲ့ စိတ်ထားကို ဖြူစင်အောင်လုပ်ဖို့၊ အကန့်အသတ်မဲ့ မေတ္တာနှင့်၊ ကရုဏာတရားတွေ တိုးပွားစေဖို့နှင့် အကြွင်းမဲ့ ပြည့်ဝတဲ့ ပညာ၊ မြင့်မားပြည့်စုံစေဖို့ရန်အတွက် လူသားတိုင်းမှာ စွမ်းအားကိုယ်စီ ပါရှိလာကြတယ်ဆိုတဲ့အချက်ကို ဗုဒ္ဓဟာ သူ့ရဲ့ကိုယ်တွေ့ အတွေ့အကြုံနှင့်ယှဉ်ပြီး သိမြင်တော်မူခဲ့ပါတယ်။ ဗုဒ္ဓဟာ ကောင်းကင်ဘုံတွေဆီ ရောက်နေတဲ့ အာရုံစိုက်မှု (မျှော်လင့်ချက်) တွေကို နှလုံးသားတွေဆီအရောက် ရွှေ့ပြောင်းပေးတော်မူခဲ့ပါတယ်[၂]။ လူဟာ မိမိကိုယ်ကို မိမိ နားလည်သဘောပေါက်တဲ့ ပညာဖြင့်သာလျှင် ကြံ့ခိုင်

---

၁။ တက္ကိကဝါဒ ကယ်တင်ခြင်းအမှုကို လုပ်ဆောင်ရန်အတွက် ကယ်တင်တတ်သူ ကယ်တင်ရှင်ဘုရားရှိရန် လိုအပ်သည်ဆိုသည့် တက္ကိက အယူအဆ။

၂။ ဖန်ဆင်းရှင်၏ ကောင်းကင်ဘုံမှနေ၍ ကယ်တင်မှုအပေါ် ယုံကြည်သူအဖြစ်မှသည် မိမိ၏ စိတ်ထားဖြူစင်မှုအပေါ် အခြေခံသည့် ကံကောင်း၊ ကံဆိုးတို့၏ ကောင်းကျိုး၊ ဆိုးကျိုးပေါ်မှာသာ ယုံကြည်အားထားလေ့ ရှိသူအဖြစ် အမြင်ပြောင်းလဲလာစေခြင်း။

နေကြတဲ့ ဘဝဒုက္ခတွေ၊ အခက်အခဲတွေကို ဖြေရှင်းနိုင်မှာ ဖြစ်တယ်လို့ ဗုဒ္ဓက ကြပ်မတ်လမ်းညွှန်တော်မူခဲ့တာပဲ ဖြစ်ပါတယ်။ (ဗုဒ္ဓဟာ လူသားကို ကယ်တင်ရှင်တစ်ဆူအနေနှင့် ကယ်တင်ခဲ့တာမျိုး လုံးဝမဟုတ်ပါဘူး)။

မေး။ ။ ဖန်ဆင်းရှင်ဘုရားသခင် မရှိခဲ့ရိုးမှန်ရင် ဒီစကြာဝဠာကြီး ဘယ်လို ပေါ်ထွန်းလာတာပါလိမ့်။

ဖြေ။ ။ ဒီမေးခွန်းကို အဖြေထုတ်ဖို့ ကြိုးစားကြတဲ့ ဒဏ္ဍာရီပုံဆောင်မှုတွေ၊ ဇာတ်လမ်း၊ ဇာတ်ကွက်ဆင်မှုတွေကတော့ ဘာသာတိုင်း လိုလိုမှာ ရှိကြတာပါပဲ။ လူတွေဘာမှ မည်မည်ရရ အသိဉာဏ် မဖွံ့ဖြိုးသေးတဲ့ ဟိုရှေးရှေးခေတ်၊ ကာလတွေတုန်းကတော့ ဒီလို ဒဏ္ဍာရီပုံဆောင်မှုတွေဟာ စကြာဝဠာကြီး (ဘယ်လို ပေါ်လာသလဲဆိုတဲ့ မေးခွန်းအတွက်) လုံလောက်တဲ့အဖြေ ဖြစ်ခဲ့ပါတယ်။ အခုခေတ်လို ရူပဗေဒ၊ နက္ခတ္တဗေဒ၊ ဘူမိဗေဒစတဲ့ သိပ္ပံပညာတွေ ထွန်းကားပြီးဖြစ်တဲ့ ၂၀–ရာစုခေတ်မှာတော့ဖြင့် သိပ္ပံတွေ့ရှိချက်တွေက အဲဒီဒဏ္ဍာရီတွေကို ချေဖျက်၊ ဖယ်ထုတ်ပစ်လိုက်ပါပြီ။ သိပ္ပံပညာက ဖန်ဆင်းရှင် အတွေးအခေါ်အပေါ် လုံးဝ အခြေမပြုပဲ စကြာဝဠာကြီး စတင်ခဲ့ပုံကို ရှင်းပြထားပြီးပါပြီ။

မေး။ ။ စကြာဝဠာကြီး စတင်ပုံနှင့်ပတ်သတ်လို့ ဗုဒ္ဓကကော ဘယ်လိုများ မိန့်ကြားတော်မူခဲ့ပါသေးသလဲ။

ဖြေ။ ။ စိတ်ဝင်စားဖို့ကောင်းတာက စကြာဝဠာကြီး စတင်ပုံနှင့် ပတ်သက်လို့ ဗုဒ္ဓရဲ့ ရှင်းလင်းချက်တွေဟာ သိပ္ပံပညာအမြင်တွေနှင့် လုံးဝ နီးပါးလောက် ကိုက်ညီနေခြင်း ပါပဲ။ အဂ္ဂညသုတ်[၁]မှာ စကြာဝဠာနှင့် ပတ်သက်လို့ ဗုဒ္ဓဟောတော်မူပုံက – "စကြာဝဠာကြီး ပျက်စီးသွားတယ်၊ ပြီးတော့ မရေတွက်နိုင်လောက်တဲ့နှစ်တွေ အသချေ်ကြာပြီးတော့မှ အခုရှိနေတဲ့ အနေအထားမျိုးဖြစ်လာအောင် တရွေ့ရွေ့၊ တဖြည်းဖြည်းချင်း ပြန်လည်၊ ဖြစ်ပေါ်လာခဲ့ရတာ ဖြစ်တယ်။ ကနဦး သတ္တဝါအမျိုးအစားတွေဟာ ရေမျက်နှာပြင်ပေါ်မှာ စတင် ဖြစ်တည်လာခဲ့ကြတယ်။ တစ်ခါ နောက်ထပ်နှစ်တွေ အသချေ်ကြာပြီးတော့မှ ရိုးစင်းတဲ့ သက်ရှိမျိုးဘဝကနေပြီး အမျိုးအမည်၊ စုံတွေပြားတဲ့ သတ္တဝါတွေအဆင့်ကို တရွေ့ရွေ့ချင်း ဖိုးတက်လာခဲ့ကြတာ ဖြစ်တယ်။ ဒီဖြစ်စဉ်တွေ အားလုံးဟာ အဆုံးအစမဲ့ လည်ပတ်ပြီး သဘာဝအကြောင်းတရားတွေနှင့်အညီ ဆက်လက် ဖြစ်ပျက်လို့ နေကြတာပဲ ဖြစ်ပါတယ်" တဲ့။

---

၁။ အဂ္ဂညသုတ္တ ဒီဃနိကာယ ၂၇

မေး။ ။ ဖန်ဆင်းရှင် ထာဝရဘုရားတည်ရှိမှုအတွက် အထောက်အထား တစ်စုံတစ်ရာ မရှိဘူးဆိုရင် ဆန်းပြားတဲ့ သဘာဝလွန်ကိစ္စတွေအတွက် ဘယ်လို ယူဆပါသလဲ။ သိပါရစေ။

ဖြေ။ ။ ဆန်းပြားတဲ့ ဒီ သဘာဝလွန် ကိစ္စတွေဟာ ဖန်ဆင်းရှင် ထာဝရဘုရားသခင်တွေ အမှန်တကယ် တည်ရှိမှုအတွက် သက်သေအထောက်အထားတွေပဲ ဖြစ်တယ်ဆိုပြီး ယုံကြည်နေကြသူတွေ အများအပြားရှိပါတယ်။ ရောဂါကုသပျောက်ကင်းမှု ဖြစ်ရပ်တစ်ခုအကြောင်း ခန့်မှန်းပြောဆိုမှုတွေ ကြားရတတ်ပါတယ်။ ဆရာဝန်တွေဆီက တိကျတဲ့ ထောက်ခံထွက်ဆိုချက်မျိုးကျတော့ ဘယ်တော့မှ မကြားရတတ်ပါဘူး။ တစ်စုံတစ်ယောက်ကို ဘေးအန္တရာယ်ကနေ ဆန်းဆန်းပြားပြား ကယ်တင်ခဲ့တယ်ဆိုတဲ့ တစ်ဆင့်စကားမျိုးကို ကြားရတတ်ပါရဲ့၊ အဲဒီ အကြောင်းနှင့်ပတ်သက်လို့ ဘယ်လိုဖြစ်ပျက်ခဲ့တယ်ဆိုတဲ့ မျက်မြင်၊ ထုတ်ဖော်ပြောဆိုတာမျိုးကိုတော့ မကြားရတတ်ပါဘူး။ ဝတ်ပြုဆုတောင်းခြင်းဖြင့် နာမကျန်းဖြစ်နေသူတစ်ဦး ကျန်းမာလာခဲ့တယ်၊ ကိုယ်လက်အင်္ဂါတွေ သန်စွမ်းသွားတယ်ဆိုတဲ့ ကောလာဟာလ ပြောကြတာတွေလည်း ကြားရတတ်ပါတယ်။ အဲဒီအတွက် ဓါတ်မှန်ရိုက်ပြတာကို မမြင်ဘူးသလို ဆရာဝန်၊ သူနာပြုတွေရဲ့ ထောက်ခံပြောဆိုတာမျိုးလည်း မကြားရတတ်ပါဘူး။ အဲဒီလို ခန့်မှန်းပြော ဆိုမှုတွေ၊ တစ်ဆင့်စကားတွေနှင့် ကောလာဟာလတွေကို ခိုင်လုံတဲ့ အထောက်အထားတွေအဖြစ်နှင့်တော့ အစားထိုးပြောဆိုလို့ မရပါဘူး။ ဖြစ်ရပ်ဆန်းတွေအတွက် ခိုင်မာတဲ့ အထောက်အထားဆိုတာကလည်း မရှိသလောက်ပါပဲ။ တစ်ခါတစ်ခါ အဲဒီလို ရှင်းမပြနိုင်တဲ့ အရာတွေဖြစ်ပျက်ပြီး ဆန်းဆန်းပြားပြားဖြစ်ရပ်တွေ ပေါ်လာတတ်တာကလည်း အမှန်ပဲဖြစ်ပါတယ်။ ဒါပေမဲ့ အဲဒီ ကိစ္စမျိုးတွေကို ရှင်းမပြနိုင်တာဟာ ဖန်ဆင်းရှင်၊ ဘုရားရှိကြောင်းကို သက်သေထူတာ မဟုတ်တဲ့ လူသားတွေရဲ့ အသိဉာဏ်မပြည့်ဝမှုကိုပဲ သက်သေထူတာ ဖြစ်ပါတယ်။ ခေတ်မီဆေးဝါးတွေ မထွန်းကားသေးတဲ့၊ ရောဂါဖြစ်ပွားရခြင်းရဲ့ အကြောင်းရင်းကိုလည်း လူသားတွေ မသိနိုင်သေးတဲ့ ဟိုရှေးခေတ်ကာလတွေဆီကဆိုရင် ဘုရားသခင်က ဒါမှမဟုတ် ဘုရားသခင်တွေက (လူသားကို) ဒဏ်ခတ်တဲ့အနေနှင့် ရောဂါဖြစ်ပွားခြင်းဆိုတာကို ချမှတ်ခဲ့တာဖြစ်တယ်လို့ ယုံကြည်ခဲ့ကြပါတယ်။ အခုခေတ်မှာတော့ ရောဂါတွေ ဖြစ်ရတဲ့ အကြောင်းတရားတွေကို လူတွေ သိလာကြပြီးဖြစ်လို့ နေထိုင်မကောင်း ဖြစ်လာရင် သက်ဆိုင်ရာ ဆေးဝါးတွေကို မှီဝဲလိုက်ကြတာပဲ ဖြစ်ပါတယ်။ အခုခေတ်လူတွေ ရောဂါဖြစ်ရတဲ့အကြောင်းရင်းကို သဘောပေါက်ကြသလိုပဲ စကြာဝဠာနှင့်ပတ်သက်လို့လူ့ အသိဉာဏ်တိုးတက်ပြည့်ဝလာတဲ့ တစ်နေ့မှာ ရှင်းမပြနိုင်သေးတဲ့ သဘာဝလွန်ဖြစ်ရပ်ဆန်းတွေရဲ့ အကြောင်းရင်းမှန်တွေကိုလည်း လူသားတွေ နားလည်နိုင်စွမ်းရှိလာမှာ အမှန်ပါပဲ။

မေး။ ။ ထေရဝါဒဘုရားသခင်မှာ ပုံသဏ္ဍာန်တော်ရှိတယ်လို့ တစ်ချို့က ယုံကြည်ကြတယ်။ ဒါဟာ ဖြစ်နိုင်ပါသလား။

ဖြေ။ ။ ဒီလိုတော့ဖြင့် မဟုတ်သေးပါဘူး။ တစ်ခေတ်တုန်းက ကမ္ဘာကြီးဟာ ပြားချပ်ချပ်ပဲ ဖြစ်တယ်လို့ လူတွေ အားလုံးလောက်က ထင်မြင်၊ ယူဆခဲ့ကြဖူးပါတယ်။ ဒါပေမဲ့ ဒီအမြင်ဟာ လုံးဝ မှားယွင်းခဲ့ပါတယ်။ အတွေးအခေါ်တစ်ရပ်ရဲ့ မှန်ကန်မှု၊ မှားယွင်းမှုဆိုတာကို အဲဒီ အတွေးအခေါ်ကို လက်ခံသူဦးရေ အနည်းအများကို လိုက်ပြီး တိုင်းတာဆုံးဖြတ်လို့ မရပါဘူး။ စစ်မှန်တဲ့ အချက်အလက်တွေကို စုစည်းပြီး စိစစ်သုံးသပ်တဲ့ နည်းနှင့်သာ ဒီ အတွေးအခေါ်ဟာ မှန်တယ်၊ မှားတယ်ဆိုတာ ပြောနိုင်ပါလိမ့်မယ်။

မေး။ ။ ဟုတ်ပါပြီ၊ ဖန်ဆင်းရှင်ဘုရားသခင်ကို မယုံကြည်၊ လက်မခံကြဘူးဆိုရင် ဗုဒ္ဓဘာသာတွေ ဘာကိုများ ယုံကြည်ကြပါသေးသလဲ။

ဖြေ။ ။ လူကိုပဲ ယုံကြည်တဲ့အတွက် ဖန်ဆင်းရှင်ကို ဗုဒ္ဓဘာသာက မယုံတာပါ။

"လူ"၊ လူ့အဖြစ် (Human Being) ဟာ တန်ဖိုးကြီးပြီးတော့ အရေးလည်းပါတယ်၊ ဗုဒ္ဓဆိုတဲ့ အဖက်ဖက်ကပြည့်စုံတဲ့ လူသားရဲ့အဖြစ်သို့တိုင်အောင် တိုးတက်မြင့်မားနိုင်တဲ့စွမ်းအင် လူမှာရှိတယ်လို့ ယုံကြည်တယ်၊ လူသားဟာ သိမှားတွေဝေမှုနှင့် ဆင်ခြင်တုံတရားကင်းမဲ့မှုတွေ ဖြစ်ပေါ်နိုင်သေးတယ်လို့လည်း ယုံကြည်တယ်။ ဗုဒ္ဓဘာသာဝင်တွေဟာ အရာရာတိုင်းကို အရှိကို အရှိအတိုင်း ရှုမြင်သုံးသပ်လေ့ရှိကြပါတယ်။ အမုန်းပွားခြင်းကို မေတ္တာနှင့်၊ စိတ်ဆိုးခြင်းကို စိတ်ရှည်သည်းခံမှုနှင့်၊ အမျက်သိရန်ငြိုးထားတတ်ခြင်းကို သဘောထားကြီးမှုနှင့်၊ မနာလို မရှုစိမ့်တတ်တာတွေကို သနားညှာတာတတ်ခြင်းနှင့် အစားထိုးပြောင်းလဲပစ်ရမယ်၊ ဗုဒ္ဓရဲ့ စံနမူနာတွေကို အတုယူပြီး ခမ္မမိတ်ဆွေတွေရဲ့ ကူညီပံ့ပိုးမှု၊ လမ်းညွှန်မှုတွေအတိုင်း ကြိုးစားသွားကြမယ်ဆိုရင် လူတိုင်း၊ လူတိုင်းဟာ အထက်ကဆိုခဲ့တဲ့ အဲဒီမေတ္တာ၊ ခန္တီ၊ ရက်ရောမှု၊ သနားကြင်နာမှုစတဲ့ ကျင့်စဉ်တွေကို ကျင့်ဆောင်လို့ ရနိုင်တယ်ဆိုတာ ဗုဒ္ဓဘာသာဝင်တွေက ယုံကြည်ပါတယ်။ ဒီနေရာမှာ ဗုဒ္ဓက မိန့်တော်မူသည်မှာ–

"လူသားကို သူကိုယ်တိုင်မှလွဲလို့ ဘယ်သူကမှ မကယ်နိုင်ဘူး။ ကယ်ဆယ်နိုင်သူ ကယ်မနိုင်သူရယ်လို့ ရှိကိုမရှိဘူး။ လူဟာ လမ်းပေါ် ခြေချပြီး ကိုယ်တိုင်လျှောက်သွားဖို့ လိုအပ်တယ်။ ဗုဒ္ဓရှင်တွေကတော့ သူလျှောက်ရမည့် လမ်းကို ရှင်းလင်း၊ ညွှန်းပြနိုင်ရုံပါပဲ[၁]" တဲ့။

---

၁။ ဓမ္မပဒ ၁၆၅

## ငါးပါးသီလ

မေး။ ။ တစ်ခြားဘာသာတွေမှာ သက်ဆိုင်ရာ ဘုရားရဲ့ ပညတ်တော်တွေထဲမှာ လာရှိတဲ့အတိုင်း အမှားအမှန်ကို လက်ခံ၊ ကျင့်သုံးကြပါတယ်။ ဗုဒ္ဓဘာသာက အဲဒီ ဖန်ဆင်းရှင်ဘုရားဆိုတာကို လက်မခံဘူးဆိုတော့ ဗုဒ္ဓဘာသာဝင်တွေအဖို့ အမှား အမှန်ကို ဘယ်လို သိမြင်၊ လက်ခံကြပါသလဲ။

ဖြေ။ ။ လိုလားတပ်မက်မှု လောဘ၊ စိတ်ဆိုး ခက်ထန်မှုဒေါသနှင့် သိမှား၊ တွေဝေမှု မောဟတွေအပေါ် အခြေခံပြီး ဖြစ်ပေါ်လာတဲ့ ကိုယ်၊ နှုတ်၊ စိတ်လှုပ်ရှားမှု (ကံသုံးပါး) တွေ အားလုံးဟာ နိဗ္ဗာန်နှင့်ဝေးသည်ထက် ဝေးစေတဲ့အတွက် ဆိုးဝါးလှပါတယ်။ ရက်ရောစွာလှူဒါန်း၊ စွန့်ကြဲမှုဒါန၊ အကျိုးလိုဖြူစင်တဲ့ မေတ္တာ၊ ကျိုးကြောင်း ဆင်ခြင်တတ်တဲ့ ပညာတွေအပေါ် အခြေခံတဲ့ ကိုယ်၊ နှုတ်၊ စိတ်လှုပ်ရပ်တွေ အားလုံးဟာ နိဗ္ဗာန်သွားရာ လမ်းကြောင်းကို ကူညီ၊ ရှင်းလင်းပေးကြတဲ့အတွက် ကောင်းမြတ်မှန်ကန်ကြပါတယ်။ ထာဝရသခင်၊ ဖန်ဆင်းရှင်ကို ဗဟိုပြုတဲ့ ဘာသာရေးတွေမှာ အမှားအမှန် ခွဲခြားသိမြင်ရေးဆိုတာ အဲဒီ ဘုရားတွေရဲ့ ပညတ်တော်တွေထဲမှာလာတဲ့ စံတွေနှင့် ညီပြီးတော့မှပဲ မှားတယ်၊ မှန်တယ်လို့ ယူရတာ ဖြစ်ပါတယ်။ လူကို ဗဟိုပြုတဲ့ ဗုဒ္ဓဘာသာလို ဘာသာမျိုးမှာတော့ မိမိကိုယ်ကို မိမိ နက်နက်ရှိုင်းရှိုင်း သိမြင်၊ နားလည်တတ်လာအောင် အသိဉာဏ်ပိုင်းကို တစ်ဆင့်ပြီးတစ်ဆင့် မြှင့်တင်ပေးရပါတယ်။ ဒီလို ကိုယ့်ဟာကိုယ် သိမြင်သဘောပေါက်မှုအပေါ် အခြေခံတဲ့ ကိုယ်ကျင့်တရားမျိုးကသာ ပညတ်တော်လာအမိန့်အတိုင်း လိုက်နာရတဲ့ အကျင့်မျိုးထက် ပိုပြီးတော့ ခိုင်မာလှပါတယ်။

ဒီလို နှင့် ဗုဒ္ဓဘာသာဝင်တွေဟာ အမှားအမှန် ဝေဖန်၊ ခွဲခြမ်းပြီး သိရှိဖို့အတွက် အောက်ပါ အချက်သုံးချက်ကို ရှု့ပြီး လုပ်ဆောင်ကြရပါတယ်။ ဒါတွေကတော့—

(၁) ရည်ရွယ်ရင်း စေတနာ (The Intention)

(၂) အကျိုးဆက် ကမ္မဖလ (The Effect)

(၃) လုပ်ဆောင်မှု ကမ္မ (The Act) တို့ပါပဲ။ (ဒါတွေဟာ ကံတစ်ရပ် အထမြောက်အောင် ပြုလုပ်ဖြစ်တဲ့နေရာမှာ ပါဝင်တဲ့ အပိုင်းတွေပါပဲ)။

စေတနာ၊ အကျိုးဆက်နှင့် လုပ်ရပ်၊ ဒီသုံးချက်လုံးဟာ အဲဒီကို ပြုလုပ်သူကိုယ်တိုင်နှင့် သက်ဆိုင်ပြီး၊ အကျိုးဆက်ကတော့ ပြုလုပ်သူအပြင် (ပတ်ဝန်းကျင်က)

တစ်ခြားသူတွေနှင့်ပါ ဆက်စပ်နေပါတယ်။ (ပတ်ဝန်းကျင် အပေါ်မှာလည်းပဲ ကံအကျိုးပေးဟာ ရိုက်ခတ်တတ်တဲ့ သဘောပါဘဲ)။

အကယ်၍ လှူဒါန်းချင်တာ၊ လိုက်လျှောစ်မင်ချင်တာ၊ အသိဉာဏ်ပညာကို မြတ်နိုးခုံမင်တာတွေအပေါ် အခြေခံတဲ့ ရည်ရွယ်ရင်းစေတနာက ကောင်းနေတယ်ဆိုရင်–ဒီစေတနာက မိမိရော သူတစ်ပါးပါ ပို၍ပို၍ အတိုင်းထက်အလွန် လှူဒါန်းဖြစ်အောင်၊ မျက်နှာချိုသာ ပျူငှါ ဖော်ရွေတတ်လာအောင်နှင့် ပညာဉာဏ် အသိတရားကို ပိုမို တန်ဖိုးထားတတ်လာအောင်အထိ တွန်းအားပေးတယ်ဆိုရင် ဒါဟာ အပြည့်အဝ ဖွံ့ဖြိုးတာ၊ ကောင်းမြတ်တာ၊ သီလအကျင့်နှင့် ပြည့်စုံတာတွေ ဖြစ်လာတာပါပဲ။

ဒီနေရာမှာ (နှိုင်းယှဉ် စဉ်းစားရမည့်) မတူ၊ ကွဲပြားတာလေးတွေ ရှိပါသေးတယ်။ တစ်ခါတစ်ရံမှာ ကိုယ်က စေတနာကောင်းနှင့် လုပ်ဆောင်လိုက်တာ ဖြစ်ပေမဲ့ မိမိရော သူတစ်ပါးပါ ဘယ်သူမှ အကျိုးမထူးပဲလည်း ဖြစ်တတ်ပါတယ်။ တစ်ခါတစ်ရံကျတော့ စေတနာက ကောင်းမွန်လှတာ မဟုတ်ပေမဲ့ ဒီလုပ်ရပ်က တစ်ခြားသူတွေကို အကျိုးပြုရင် ပြုနေတတ်ပါသေးတယ်။ တစ်ခါတစ်လေမှာတော့ စေတနာကောင်းနှင့် ဆောင်ရွက်ဖြစ်တာ ကိုယ်ကတော့ အကျိုးရှိပါရဲ့၊ တစ်ပါးသူတွေအတွက် အနှောင့်အယှက်ဖြစ်ရင် ဖြစ်နေတတ်ပါတယ်။ ဒီနေရာမှာ ကိုယ်ရဲ့ လုပ်ရပ်ကမ္မထဲမှာ အကောင်းအဆိုး ရောယှက်ပါဝင်နေတာမျိုး ဖြစ်နေတတ်ပါတယ်။ (အဲကြောင့် လိုရင်းကိုဆိုရရင်) စေတနာကိုက ဆိုးနေတယ်၊ အဲဒီ စေတနာဆိုးနှင့် ဆောင်ရွက်တဲ့အတွက် မိမိနှင့် သူတစ်ပါး ဘယ်သူ့ကိုမှ အကျိုးမပြုဘူးဆိုရင် ဒါဟာ စင်စစ် ဆိုးတာ၊ မှားယွင်းဖေါက်ပြန်၊ မမှန်ကန်တာပါပဲ။ စေတနာက ကောင်းနေတယ်၊ စေတနာကောင်းနှင့် ဆောင်ရွက်တဲ့အတွက် မိမိရော သူတစ်ပါးပါ အကျိုးများကြတယ်ဆိုရင် ဒါဟာ စင်စစ် အပြည့်အဝ ကောင်းမြတ်မှန်ကန်ပြီး မဖေါက်ပြန်တာပါပဲ။

မေး။ ။ ဒါဆို ဗုဒ္ဓဘာသာမှာ ကိုယ်ကျင့်ဆိုင်ရာ ကျင့်ထုံးတစ်ရပ် ရှိပါသေးသလား။

ဖြေ။ ။ ရှိပါတယ်။ ငါးပါးသီလဟာ ဗုဒ္ဓဘာသာရဲ့ အခြေခံ ကိုယ်ကျင့်၊ သီလပါပဲ။

(၁) သက်ရှိသတ္တဝါတွေကို သတ်ဖြတ်တာ ဒါမှမဟုတ် ညှဉ်းဆဲ၊ နှိပ်စက်တာတွေကို ရှောင်ရှားခြင်း၊

(၂) ခိုးဝှက်၊ လိမ်ညာမှု မပြုခြင်း၊

(၃) ကာမဂုဏ်ကိစ္စတွေမှာ ဖေါက်ပြန်၊ ကျူးလွန်မှု မပြုခြင်း၊

(၄) လိမ်လည်ပြောဆိုမှု မပြုခြင်း၊

(၅) အရက်နှင့် မူးယစ်ဆေးဝါးများ မသုံးစွဲခြင်းတို့ပါပဲ။

မေး။ ။ ဒါပေမဲ့ တစ်ခါတစ်လေ သတ်ဖြတ်မှုဟာ လိုအပ်တယ်ဆိုတာ သေချာပါတယ်။ ရောဂါတွေဖြစ်ပွားစေနိုင်တဲ့ ပိုးမွှားတွေကို နှိမ်နင်းချေဖျက်ရတာတွေ၊ ကိုယ့်ကို သတ်တော့မယ် တကဲကဲ လုပ်နေတဲ့သူကို ခုခံရတာမျိုးတွေ လိုအပ်လာရင် ဘယ်လိုပါလဲ။

ဖြေ။ ။ ဒီလို မေးခွန်းမျိုး မေးတဲ့လူအဖို့တော့ သတ်ဖြတ်မှုဆိုတာ လိုအပ်ကောင်း၊ လိုအပ်မှာ အမှန်ပါပဲ။ ဒါပေမဲ့ ဒီပိုးမွှားတွေ၊ မိမိကို သတ်တော့မည့် တကဲကဲ လုပ်နေတဲ့ ပုဂ္ဂိုလ်တွေရဲ့ ကိစ္စကိုကော ထည့်မစဉ်းစားတော့ဘူးလား။ မိမိဟာ အသက်ရှင်၊ နေထိုင်ရတာကို မြတ်နိုးသလိုပဲ သူတို့တွေဟာလည်း အသက်ရှင်၊ နေထိုင်လိုကြသူတွေ ချည်းပါပဲ။ ကူးစက်ရောဂါပိုးတွေကို နှိမ်နင်းချေဖျက်ဖို့ ဆုံးဖြတ်လိုက်တဲ့အခါ သူ့ရဲ့ စေတနာထဲမှာ အဆိုးနှင့်အကောင်း အားပြိုင်ရောယှက်ပြီး ပါဝင်နေကြတယ်။ ဒီလို လုပ်တာ ကိုယ့်အတွက်တော့ ကောင်းပါရဲ့ အလုပ်ခံရသူ အဖို့မှာတော့ မကောင်းရိုး အမှန်ပါပဲ။ ဒါကြောင့် ဒီ အနေအထားမျိုးမှာ သတ်ဖြတ်မှုဆိုတာ လိုအပ်ကောင်းလိုအပ်မှာဖြစ်ပေမဲ့ ဒါဟာ စင်စစ် ကောင်းတဲ့ သဘောတော့ မဟုတ်ပါဘူး။

မေး။ ။ ဗုဒ္ဓဘာသာဝင်တွေဟာ ပုရွက်ဆိတ်နှင့် ကြမ်းပိုးတွေကိုတောင် သိပ်ညှာတာ လေ့ရှိကြတယ်ဆိုတာကကော ဘယ်လိုပါလဲ။

ဖြေ။ ။ ဗုဒ္ဓဝါဒတွေဟာ သတ္တဝါတွေ အားလုံးအပေါ်မှာ ခွဲခြားမှုမရှိပဲ တပြေးညီ တစ်သဘောတည်းထားပြီး ခံမင်၊ သနားတတ်တဲ့ ကရုဏာတရားမျိုးကို ပွားများအားထုတ်လေ့ ရှိကြပါတယ်။ ဗုဒ္ဓဝါဒီတွေကတော့ ဒီကမ္ဘာကြီးကို သက်ရှိသက်မဲ့ အရာတွေအားလုံး တပြေးညီ စုပေါင်းဖြစ်တည်လျှက် ရှိကြတဲ့ ကမ္ဘာဖြစ်တယ်၊ အရာဝတ္ထုတွေနှင့် သတ္တဝါတွေအားလုံးမှာ နေရာ (ကိုယ်ပိုင် ရပ်တည်ချက်) နှင့် အလုပ် (ကိုယ်ပိုင် ဆောင်ရွက်ချက်) ကိုယ်စီ ရှိကြတယ်လို့ ရှုမြင်ကြပါတယ်။ သဘာဝရဲ့ ဟန်ချက်ညီ ဖြစ်တည်မှုကို လူသားတွေက တိမ်းပါး၊ ပျက်စီးစေတာတို့၊ ဖောက်လွဲဖောက်ပြန် ဖြစ်စေတာတို့ မလုပ်မိခင်မှာ လူသားအနေနှင့် သတိကြီးစွာ ထားသင့်တယ်လို့ ခံယူကြပါတယ်။ တောတောင်၊ ရေမြေသဘာဝကို မြေလှန်ဖျက်ဆီးပြီး ကိုယ့်လို၁ ပြည့်ဝရေးတစ်ခုတည်းကိုသာ အဓိကထားတဲ့၊ ပြန်လည်ပျိုးထောင်ရေးဆိုတာမျိုးကို လုံးဝ ဂရုမထားဘဲ သဘာဝအရင်း၊ အမြစ်တွေကို နိုင်လိုမင်းထက် ဖျက်လိုဖျက်ဆီးလုပ်ပြီး အကြွင်းမဲ့ ညှစ်ထုတ် သုံးစွဲနေကြတဲ့ ဒေသတချို့ဆီက အကျင့်စရိုက်ဆိုးတွေကို ကြည့်ပါ။ (အဲဒီ ဒေသတွေမှာ) သဘာဝက (လူကို) ပြန်လည် တွန်းလှန်လာပါပြီ၊ လေထုအလွှာဟာလည်း အဆိပ်သင့် လာနေတယ်၊ မြစ်ရေတွေဟာ ညစ်ညမ်းလာနေကြပြီး နောက်ဆုံးမှာ မြစ်ကြောင်းတွေ ကောသွားကြတယ်၊ လှပတဲ့ သတ္တဝါမျိုးပေါင်းများစွာတွေ ပျောက်ဆုံးသွားကြတယ်၊ တောတောင်တွေ တိုက်စားပြုန်းတီးလာပြီး၊ ရာသီဥတုတွေလည်း ပြောင်းလဲဖောက်ပြန် မမှန်

ကန်တော့ပါဘူး။ အကယ်၍ လူတွေကသာ ဒီလိုမျိုး နိမ့်နင်း၊ ဖျက်ဆီးသတ်ဖြတ်မှုတွေကို နည်းနည်းပါးပါး ဖြစ်ဖြစ် ဆင်ဆင်ခြင်ခြင် ရှိကြမယ်ဆိုရင် ဒီလောက်ဆိုးဝါးတဲ့ အခြေမျိုးအထိ ဆိုက်ရောက်ဖွယ်ရာ မရှိပါဘူး။ လူသားတွေအားလုံး သက်ရှိလောကကို ပိုမို တန်ဖိုးထား တတ်တဲ့ အကျင့်တိုးပွားလာအောင် ကြိုးစားသင့်ကြပါပြီ။ ဒါက ပါဏာတိပါတဆိုတဲ့ ပထမ သိက္ခာပုဒ်ရဲ့ ဆိုလိုချက်ပါပဲ။

မေး။ ။ တတိယသိက္ခာပုဒ်က မှားယွင်းဖောက်ပြားတဲ့ ကာမကျူးလွန်တာမျိုး မပြုလုပ်ရလို့ ဆိုထားတယ်။ မှားယွင်း၊ ဖောက်ပြန်တဲ့ ကာမကျူးလွန်မှုဆိုတာ ကကော ဘယ်လိုပါလဲ။

ဖြေ။ ။ လိမ်လည်လှည့်ဖြား စည်းရုံးတယ်၊ ကာမကိစ္စအကြောင်းပြုပြီး ငွေညှစ်တယ်၊ ဒါမှမဟုတ် အတင်းအကျပ်ပြုပြီး တစ်စုံတစ်ယောက်ကို ကာမဆက်ဆံတယ်ဆို ရင် ဒါတွေဟာ မှားယွင်းဖောက်ပြန်တဲ့ ကာမမှုတွေပါပဲ။ အိမ်ထောင်ရှင်တစ်ဦး အနေနဲ့က တော့ ကိုယ့်ရဲ့အိမ်ထောင်ဖက်အပေါ် သစ္စာစောင့်သိပါ့မယ်လို့ ထားရှိခဲ့တဲ့ ကတိကဝတ် ကိုလည်း ချိုးဖောက်ရာရောက်တဲ့အတွက် တစ်ခြားတစ်ယောက်နဲ့ ဖောက်ပြားတယ်ဆို ရင် မှားယွင်းတဲ့ ကာမမှု (ကာမေသုမိစ္ဆာစာရ) ပါပဲ။ ဒါဟာ ကိုယ့်ရဲ့ အိမ်ထောင်ဖက်အ ပေါ်မှာ သစ္စာမရှိ ကတိမတည်ရာလည်း ရောက်ပါတယ်။ လိင်ကိစ္စဆိုတာ တကယ်ဆို လူ နှစ်ဦးအကြား တကယ်ချစ်ကြတာ၊ ရင်းနှီးကြတာကို ဖော်ဆောင်တာပဲ ဖြစ်သင့်ပါတယ်။ ဒီလိုမျိုး တကယ်တမ်း ချစ်ခင်ရင်းနှီးကြတော့မှလည်း စိတ်ချမ်းသာမှု အပြည့်အဝ ရှိကြမှာ ဖြစ်ပါတယ်။

မေး။ ။ လက်မထပ်ရသေးပဲနဲ့ လိင်ကိစ္စ ဖြစ်ပွားတာမျိုးကကော မှားယွင်းတဲ့ ကာမ မှုပဲတဲ့လား။

ဖြေ။ ။ နှစ်ဦးသားအကြား အပြန်အလှန် သဘောတူ ချစ်ကြည်ရင်းနှီးမှု (အမှန်တ ကယ် ယုံကြည်စိတ်ချရမှု) ရှိကြတယ်ဆိုရင်တော့ ဒါဟာ မှားယွင်းတဲ့ အမှုမဟုတ် တော့ပါဘူး။ သို့ပေမဲ့လည်း ရုပ်သဘောအရ လိင်ဆက်ဆံတယ်ဆိုတာ မျိုးပွားစေတတ်တဲ့ ကိစ္စဖြစ်တယ်ဆိုတာကို မမေ့သင့်ပါဘူး။ လက်မထပ်ရသေးပဲနဲ့ အမျိုးသမီးတစ်ဦး ကိုယ်ဝန် ရှိလာပြီဆိုရင် သိပ်ခက်ခက်ခဲခဲ ဖြေရှင်းရတဲ့ အဖြစ်မျိုး ရောက်သွားတတ်ပါတယ်။ ဒါကြောင့် ဆင်ခြင်၊ မြော်မြင်လေ့ရှိသူတွေကတော့ လက်မထပ်မချင်း လိင်ကိစ္စမပြုကြတာ အကောင်း ဆုံးပဲလို့ ခံယူကြပါတယ်။

မေး။ ။ လိမ်ညာပြောဆိုတယ် ဆိုတာကကော ဘယ်လိုပါလဲ။ လိမ်မပြောပဲ နေဖို့ ကော ဖြစ်နိုင်ခြေရှိပါရဲ့လား။

ဖြေ။　　။ တကယ့်ကို မလိမ်မညာ၊ မဖြီးမဖြန်းပဲနှင့် နေထိုင်လို့ကို မဖြစ်နိုင်လောက်တဲ့ လူ့မှုအသိုင်းအဝိုင်းနှင့် လုပ်ငန်းခွင်မျိုးမှာ ကျင်လည်ရတယ်ဆိုရင်တော့ အဲသည်လောက် ထိတ်လန့်စရာကောင်းလောက်အောင် ဆိုးဆိုးဝါးဝါး၊ ခြစားနေတဲ့ အနေအထားမျိုးကို ပြောင်းလဲ၊ စွန့်ခွါသင့်ပါတယ်။ အခက်အခဲတွေနှင့် ကြုံရတဲ့အခါ အတတ်နိုင်ဆုံး မှန်မှန်ကန်ကန် ရိုးရိုးသားသားနှင့် လက်တွေ့ကျကျ ကိုင်တွယ်ဖြေရှင်းလေ့ရှိသူဟာ ဗုဒ္ဓဝါဒီ၊ ဗုဒ္ဓဘာသာဝင်ပါပဲ။

မေး။　　။ ကောင်းပါပြီ၊ အရက်သောက်တာနှင့် ပတ်သက်လို့ နည်းနည်းပါးပါးကလေး သောက်တာဆိုရင်ကော (ကိုယ်ကျင့်သီလကို) သိပ် ထိခိုက်နိုင်ပါ့မလား။

ဖြေ။　　။ လူတွေ အရက်သောက်ကြတယ်ဆိုတာ အရသာခံဖို့အတွက် မဟုတ်ပါဘူး။ တစ်ယောက်တည်း သောက်တယ်ဆိုရင် တင်းကျပ်တဲ့ အခြေအနေတွေကနေ တဒင်္ဂအားဖြင့် လွတ်မြောက်မှုရရှိဖို့အတွက် သောက်တာဖြစ်တယ်။ အများနှင့်သောက်တာကျတော့ အဲဒီလူတွေနှင့် တစ်သဘောတည်းဖြစ်ပြီး လိုက်လျောညီထွေဖြစ်စေဖို့အတွက် သောက်ကြတာပဲ ဖြစ်ပါတယ်။ အရက်ဆိုတာ နည်းနည်းပါးပါးကလေး သောက်တာနှင့်ပဲ အသိစိတ်ကို ကတိမ်းကပါးဖြစ်စေပြီး သတိလက်လွတ် ဖြစ်တတ်ပါတယ်။ အများအပြားသောက်တာဆိုရင်တော့ လုံးဝ ပျက်စီးသွားမှာပါပဲ။

မေး။　　။ မဖြစ်စလောက်ကလေး သောက်တာနှင့်တော့ သီလဟာ မပျက်စီးနိုင်ဘူးလို့ ထင်ပါတယ်။ ပျက်နိုင်ပါသေးသလား။ သောက်တာကလည်း တကယ့်နည်းနည်းပါးပါး ဆိုရင်ပေါ့လေ။

ဖြေ။　　။ ပျက်နိုင်ပါတယ်။ ဒီ အနည်းအကျဉ်းကလေးကိုတောင် မသောက်ရ မနေနိုင်ဆိုရင် အဲဒီ သိက္ခာပုဒ်ဆောက်တည်မှုနှင့် ဆုံးဖြတ်ချက်ချမှုဟာ မခိုင်မာလို့ပဲပေါ့။ ဘယ်လိုလဲ ခိုင်ရဲ့လား။

မေး။　　။ ငါးပါးသီလဆိုတာ တားမြစ်ချက် သက်သက် ချည်းပဲလား။ ဘာတွေ မလုပ်ရ၊ ဘယ်ဟာတွေ ရှောင်ရမည်ဆိုတာချည်းပဲ ဖိပြောပြီးတော့ ဘာတွေ၊ ဘယ်ဟာတွေတော့ဖြင့် လုပ်ရမယ်ဆိုတာမျိုးကကော မပါဘူးတဲ့လား။

ဖြေ။　　။ ငါးပါးသီလဟာ ဗုဒ္ဓဘာသာရဲ့ အခြေခံ ကိုယ်ကျင့်တရားပါပဲ။ ငါးပါးသီလရဲ့ အကျယ်အဝန်းဟာ ဤမျှတွင်သာ မဟုတ်သေးပါဘူး။ လူဟာ အမူအကျင့်ဆိုးတွေကို (ကိုယ်တိုင်) သိမြင်ပြီး အဲဒါတွေကို ရပ်ဆိုင်း၊ ရှောင်ကြဉ်ခြင်းဖြင့် အစပျိုးရမယ်။ ဒီအချက်က ငါးပါးသီလဟာ ဘာအတွက်လည်းဆိုတဲ့ အဖြေပါပဲ။ အမူအကျင့်ဆိုးတွေကို ရပ်ဆိုင်းပြီးတဲ့ နောက်မှာတော့ အမူအကျင့်ကောင်းတွေကို တိုးပွားပြုလုပ်ဖို့ စတင်ပါတော့။

ဥပမာပြုရရင် စကားပြောဆိုမှု ဝစီကံဆိုပါတော့ မုသားပြောဆိုတာကို ရှောင်ကြဉ်ခြင်းဖြင့် စတင်ရပါမယ်။ အဲဒီနောက် သင့်တော်တဲ့အချိန် (အခြေအနေ) မှာ မှန်သောစကားကို နူးညံ့သိမ်မွေ့စွာ ပြောဆိုတတ်လာအောင် လေ့ကျင့်ယူရမယ်လို့ ဗုဒ္ဓက မိန့်တော်မူခဲ့ပါတယ်။

"မုသားပြောဆိုမှုကို ရှောင်ကြဉ်ခြင်းဖြင့် သစ္စာစကားကို ဆိုသူဖြစ်လာတယ်။ အားကိုးထိုက်သူ၊ ယုံကြည်စိတ်ချရသူ၊ မှီခိုထိုက်သူ ဖြစ်လာတယ်။ သူများတွေကို ထိခိုက်၊ နစ်နာစေနိုင်တဲ့ ကုံးချောစကားကို ရှောင်ကြဉ်ခြင်းဖြင့် တည်ကြည်သူ ဖြစ်လာတယ်။ သူနှစ်ဦးအကြား နားလည်မှုလွဲတာတွေ ဖြစ်လာအောင် ဒီစကား ဟိုပြော၊ ဟိုစကား ဒီပြောမျိုး မပြောဘူး။ မသင့်မတင့်ဖြစ်ပြီး ကွဲပြားနေသူတွေကို ပြန်လည်၊ ရင်ကြားစေ့ပေးပြီး မိတ်ဆွေတွေကြားမှာတော့ ပိုမို ခိုင်မာလာအောင် ဆောင်ရွက်ပေးလေ့ ရှိတယ်။ ညီညွတ်၊ အေးချမ်းမှုကိုပဲ ကြည်နူး၊ နှစ်သက်မြတ်နိုးသူဖြစ်တယ်။ သူ့ပြောစကားတွေရဲ့ ဦးတည်ချက်ကလည်း ညီညွတ်ရေးပါပဲ။ ကြမ်းတမ်း၊ ရိုင်းပြတဲ့ စကားမျိုးကို ရှောင်ကြဉ်ခြင်းဖြင့် သူ့စကားတွေဟာ အပြစ်ကင်းတဲ့စကား၊ နားဝင်ချိုတဲ့စကား၊ ကန့်ကွက်စရာမရှိတဲ့စကား နှလုံးသားကို ရိုက်ခတ်စေတဲ့စကား၊ ယဉ်ကျေးဖွယ်ရာတဲ့စကား လူများစုသဘောကျလောက်တဲ့ စကားတွေ ဖြစ်လာတာပါပဲ။ သိမ်ဖျင်းတဲ့စကားတွေကို ရှောင်ကြဉ်ပြီးတော့ အချိန်အခါနှင့် လိုက်ဖက်တဲ့ စကား၊ မှန်ကန်တဲ့ စကား၊ ဓမ္မနှင့် စပ်လျဉ်းတဲ့စကား၊ ဥပဒေသ (ကျင့်စဉ်၊ စည်းကမ်း၊ လုပ်နည်း၊ လုပ်ဟန်) နှင့် စပ်လျဉ်းတဲ့စကား၊ အရေးပါပြီး တန်ဖိုးရှိတဲ့စကား၊ အခါအခွင့် သင့်ပြီးကြောင်းကျိုးဆီလျော်တဲ့စကား၊ လိုရင်းကျတဲ့ စကားမျိုးတွေကို ပြောဆိုလေ့ရှိသူ ဖြစ်လာတယ်[၁]။"

---

၁။ မဇ္ဈိမနိကာယ ၁၇၉

# တမလွန်

မေး။ ။ လူသားဟာ ဘယ်ကနေလာခဲ့ပြီးတော့ ဘယ်ဆီကို သွားမှာပါလဲ။

ဖြေ။ ။ ဒီအမေးအတွက် ဖြစ်နိုင်ခြေက သုံးမျိုးရှိပါတယ်။ ဖန်ဆင်းရှင်ကို ယုံကြည်သူတွေကတော့–သတ္တဝါတွေကို မဖန်ဆင်းခင်မှာ လူဟာ မပေါ်ပေါက်သေးပဲ ဘုရားသခင်တွေရဲ့ ဖန်တီးလိုတဲ့ဆန္ဒ ဖြစ်ပေါ်မှုကနေတဆင့် လူ ပေါ်ပေါက်လာခဲ့ရတာ ဖြစ်တယ်တဲ့၊ ဒီလိုနှင့် သူဟာ သက်ရှိနေထိုင်သူဖြစ်လာပြီး နေထိုင်ရတဲ့ ဘဝမှာ ဘာကို ယုံကြည်ပြီး ဘာတွေ ဆောင်ရွက်တယ်ဆိုတဲ့ အချက်ပေါ်မူတည်လျှက် ထာဝရကောင်းကင်ဘုံ၊ ဒါမှမဟုတ် ထာဝရငရဲဘုံဆီကို သွားမှာပဲတဲ့။ လူသားဝါဒီတွေနှင့် သိပ္ပံပညာရှင်တွေကတော့ သဘာဝအကြောင်းတရားတွေကြောင့် လူသတ္တဝါတွေ ပေါ်ပေါက်လာခဲ့ကြတယ်၊ သက်ရှင်နေထိုင်တယ်၊ သေဆုံးတယ်၊ ပြီးတော့ အစပျောက်သွားတော့တာပါပဲတဲ့။ ဗုဒ္ဓဘာသာကတော့ ဒီ ဖေါ်ပြချက် နှစ်မျိုးလုံးကို လက်မခံပါဘူး။ ပထမ အယူအဆက ယုံကြည်မှုနှင့်ရောအကျင့်စရိုက်နှင့်ပါ သက်ဆိုင်တဲ့ မေးခွန်းပေါင်းများစွာကို ပေါ်ထွက်လာစေပါတယ်။ သနားစင်မှန်မြတ်တဲ့ ဘုရားသခင်အနေနှင့် အမှန်တကယ်သာ သတ္တဝါတွေကို ဖန်တီးနေတာဖြစ်တယ်ဆိုရင် ကြောက်စရာကောင်းလောက်အောင် ပုံပျက်ပန်းပျက်နှင့် မွေးဖွားလာသူတွေ၊ တစ်ချို့က မွေးချိန်မတိုင်မီ သေသွားကြသလို၊ တစ်ချို့ကျတော့ လစေ့လို့ မွေးလာတာတောင် အသေပဲ မွေးလာပြန်တယ်။ ဒါတွေကို ဘယ်လိုဖြစ်တယ်ဆိုတာ ရှင်းပြဖို့တောင်မှပဲ ခက်ခဲလှပါတယ်။ ဖန်ဆင်းရှင်ဝါဒအနေနှင့် ရှင်းပြဖို့ခက်လှတဲ့ နောက်အချက်တစ်ခုကတော့ လူတစ်ဦးဟာ ကမ္ဘာပေါ်မှာ လူ့ သက်တမ်းနှစ် ၆၀–၇၀ မျှ သက်ရှည်နေထိုင်ပြီး ဒီ ကာလ၊ အတောအတွင်း သူလုပ်ခဲ့တဲ့ မကောင်းတာတွေအတွက် ငရဲမှာ ထာဝရဒုက္ခတွေကို (မဆုံးတမ်း) ခံစားရတော့မယ် ဆိုတော့ ဒါဟာ နည်းနည်းကလေးမှ တရားရာကျပုံ မပေါ်ပါဘူး။ ဒီလိုနှစ် ၆၀–၇၀ မျှ ကာလအတွင်း ဘုရား၊ တရားကို မယုံကြည်ခဲ့ရုံနှင့် ဒါမှမဟုတ် အကျင့်ကလေး မကောင်းခဲ့ရုံနှင့်ပဲ ထာဝရဒုက္ခတွေကို (နင့်နေအောင်) မခံစားထိုက်သေးပါဘူး။ အပြန်အလှန် အားဖြင့် လူ့သက်တမ်း အနှစ် ၆၀–၇၀ မျှ ကာလအတွင်း ကောင်းကောင်း၊ မှန်မှန် နေထိုင်ခဲ့ရုံမျှကလေးဖြင့် ကောင်းကင်ဘုံမှာ အမြဲတသုခတွေကို ထာဝရခံစားရဖို့ဆိုတဲ့ အတွက်လည်း ပမာဏနည်းနေတယ် ဆိုတာပါပဲ။

ဒုတိယအယူအဆက ပထမယူဆချက်ထက် များစွာပိုကောင်းပြီး ဒီ အချက် မှန်ကန်ကြောင်း သိပ္ပံအထောက်အထားတစ်ချို့လည်း ရှိနေပါပြီ။ ဒါပေမဲ့ သိပ်အရေးပါတဲ့ မေးခွန်းတွေကိုတော့ ခုထိ အဖြေမထုတ်နိုင်သေးပါဘူး။ သုတ်ပိုးနှင့် မမျိုးဥဆိုတဲ့ ကလာပ်စည်း (Cell) နှစ်ခုတို့ရဲ့ ရိုးစင်းတဲ့ပေါင်းစည်းမှုကနေ ဘယ်လိုလုပ်ပြီး အခြေခံရုပ်တရားဟာ အံ့မခန်း၊ ရှုပ်ထွေးပွေလီလှတဲ့ အသိစိတ်တစ်ခု အဆင့်နှင့် ဖြစ်ပေါ်လာခဲ့ရတာပါလဲ။ နောက်ပြီးတော့ အခုအခါ ဝိညာဉ်အကြောင်းများ၊ အကြား၊ အမြင်အကြောင်းများစသည် တို့ကို စနစ်တကျ လေ့လာတဲ့ ပရဆိုင်ကိုလိုဂျီ (Parapsycology) ကို သိပ္ပံပညာရဲ့ အစိတ်အပိုင်းတစ်ခုအဖြစ် အသိအမှတ်ပြုထားပြီဆိုတော့ စိတ်ချင်းဆက်သွယ်မှု တယ်လီပသီလို အခြေခံစိတ်ရဲ့ သဘောတရားတွေကိုတော့ ရုပ်နွယ်တဲ့ စိတ်ရဲ့ ပုံသဏ္ဌာန်အဖြစ်နှင့် ထည့်သွင်း၊ ပြောဆိုဖို့ကတော့ ခက်တုန်းပါပဲ။

ဗုဒ္ဓဘာသာကတော့ လူဟာ ဘယ်ကနေလာခဲ့ပြီး ဘယ်ဆီကို ဆက်သွားဦးမယ်ဆိုတာ ကျေနပ်ဖွယ် အကောင်းဆုံးဖြစ်လာအောင် ရှင်းလင်းပြသဖို့ ကမ်းလှမ်းဖိတ်ခေါ်ပါတယ်။ သေတဲ့အခါ (သေခါနီးကာလမှာ) အခုဘဝ ဖြစ်ပျက်တွေ့ကြုံခဲ့ရတဲ့ အားလုံးသော ကိုင်းညွှတ်၊ တိမ်းယိမ်းမှုတွေ၊ အကြိုက်တရားတွေ၊ အစွမ်းအစတွေ၊ အကျင့်စရိုက်တွေနှင့် အတူတကွ ဖြစ်ပေါ်လာတဲ့စိတ်^၁က ပဋိသန္ဓေမျိုးစေ့ကို ပြန်လည် ဖြစ်ပွားစေပါတယ်။ ဒီလိုနှင့် သတ္တဝါဟာ စတင်ပဋိသန္ဓေတည်၊ မွေးဖွားလာပြီးတော့ မူလက ပါလာတဲ့ အကျင့်စရိုက်တွေကရော၊ ပတ်ဝန်းကျင်က ဖန်တီးတဲ့ ပုဂ္ဂလအခြေအနေတွေအရ ပါ ဘဝဆိုတာ ဖြစ်ပေါ်လို့ လာပါတယ်။ (ဒီမှာ ဖန်ဆင်းရှင် လုံးဝမပါဝင်ခဲ့ ဘူးဆိုတာ သတိချပ်ပါ)။ မူလကပါလာတဲ့ ပုဂ္ဂလိကသွင်ပြင်ဟာ ကိုယ့်ဟာကိုယ် စိတ်ပိုင်းဆိုင်ရာအရ အပြောင်း၊ အလဲဖြစ်အောင် ကြိုးပမ်းမှုတွေကြောင့် ပြောင်းလဲနိုင်သလို ပညာရေး၊ မိဘ (မိသားစု) ပတ်ဝန်းကျင် ဩဇာလွှမ်းမိုးမှုနှင့် လူ့အဖွဲ့အစည်းစတဲ့ ပြင်ပ အခြေအနေတွေ ကြောင့်လည်းပဲ ပြောင်းလဲ သွားနိုင်ပါသေးတယ်။ သေပြီးတဲ့နောက်မှာတော့ ဘဝသစ်ကို သူ့ဟာနှင့်သူ တဖန် ဖြစ်ပေါ် စေပြန်ပါတယ်။ ဒီလိုနှင့် သေလိုက်၊ မွေးလိုက်ဖြစ်စဉ်ဟာ သိမှားတွေဝေမှု၊ အဝိဇ္ဇာနှင့် လိုလားတပ်မက်မှု တဏှာဆိုတဲ့ မူလနှစ်ဖြာကြောင့် ဖြစ်တဲ့ သံသရာလည်မှု မရပ်မချင်း ဆက်တိုက်ဖြစ်ပျက်နေမှာပါ။ မူလနှစ်ဖြာ ရပ်စဲသွားတဲ့အခါမှာတော့ ထပ်မံ မမွေးဖွားတော့ဘဲ နိဗ္ဗာန်ဆိုတဲ့ အခြေအနေတစ်ရပ်ကို ရရှိလာမှာ ဖြစ်ပါတယ်။ ဒါဟာ ဗုဒ္ဓဘာသာတွေရဲ့ နောက်ဆုံး အန္တိမ၊ ရည်မှန်းချက်ဖြစ်ပြီး ဘဝရဲ့ ဦးတည်ချက်လည်းပဲ ဖြစ်ပါတယ်။

---

၁။ မရဏာသန္နဇောစိတ်

မေး။ ။ စိတ်ဟာ ခန္ဓာကိုယ်တစ်ခုကနေ နောက် ခန္ဓာကိုယ်တစ်ခုဆီသို့ ဘယ်လိုလုပ်ပြီး ရောက်သွားတာပါလဲ။

ဖြေ။ ။ ဒါကို ရေဒီယိုလှိုင်းတစ်ခုလို သဘောထားပြီး တွေးကြည့်စမ်းပါ။ ရေဒီယိုလှိုင်းဆိုတာ အစက စကားလုံးတွေ၊ တေးဂီတတွေ မဟုတ်ပဲ လှိုင်းအမျိုးမျိုးကနေ ထုတ်လွှင့်တဲ့ အသံလှိုင်း ဒြပ်စွမ်းအင်မျှသာ ဖြစ်ပါတယ်။ အဲဒီလှိုင်းကို ထုတ်လွှင့်လိုက်တာနှင့် တပြိုင်နက် လှိုင်းဟာ အာကာသထဲရောက်သွားပြီး အဲဒီကနေတဆင့် သံလိုက်ခါတ်နှင့် ဆွဲယူလိုက်တဲ့ အခါကျတော့ ရေဒီယိုစင်တာက မူလထုတ်လွှင့်လိုက်တဲ့ တေးဂီတတွေ စကားလုံးတွေအတိုင်းပဲ ဖမ်းယူနားဆင်သူတွေ ကြားကြရပါတယ်။ ဒါဟာ စိတ်သဘောတရားနှင့် တူညီနေပါတယ်။ သေပြီးတဲ့နောက်မှာလည်း စိတ်စွမ်းအင်တွေကို ပဋိသန္ဓေမျိုးစေ့က လက်ခံ၊ ဆွဲယူလိုက်တာပါ။ သန္ဓေသားလောင်း ကြီးထွားလာတော့ အဲဒီ ပဋိသန္ဓေစိတ်ဟာ ဦးနှောက်မှာ ဗဟိုပြုလာပြီး အဲဒီကနေတစ်ဆင့် ဥပမိရုပ်သစ်အနေဖြင့် ဖြစ်လာတော့တာပါပဲ။

မေး။ ။ သတ္တဝါတစ်ဦးဟာ လူသားအဖြစ်နှင့်ချည်း ဘဝသစ်ကို ရတတ်ပါသလား။

ဖြေ။ ။ ဒီလို မဟုတ်ပါဘူး။ သတ္တဝါတစ်ဦး သွားဖြစ်နိုင်တဲ့ ဘုံဌာနတွေက အများကြီးပဲ ရှိပါတယ်။ တစ်ချို့သတ္တဝါတွေအထက် နတ်ဘုံတွေဆီမှာ ဖြစ်နိုင်သလို တစ်ချို့ကျတော့ ငရဲမှာ ဖြစ်နိုင်ပါတယ်။ တစ်ချို့လည်း ဆာလောင်မွတ်သိပ်နေတဲ့ပြိတ္တာဘဝမှာ သွားဖြစ်နိုင်ပါသေးတယ်စသည်ဖြင့် အများအပြားပါပဲ။ နတ်ဘုံနတ်နန်းတွေဆိုဆိုတာ တကယ့် နေရာဌာနတွေ မဟုတ်တဲ နူးညံ့သိမ်မွေ့တဲ့ ရုပ်ခန္ဓာမျိုးကိုပဲ ပိုင်ဆိုင်ကြပြီးတော့ နာမ်တရားအနေနှင့်သာ အများအားဖြင့် ပျော်ရွှင်ကြည်နူးဖွယ် ဣဋ္ဌာရုံတွေကိုပဲ ခံစားရသူတွေ တည်ရှိတဲ့ အခြေအနေတစ်ရပ်မျှသာ ဖြစ်ပါတယ်။ တစ်ချို့သောဘာသာတွေမှာကျတော့ ထာဝရတည်မြဲတဲ့ တကယ့် ဘုံဌာနတစ်ခုအဖြစ် မှားယွင်းစွာယုံကြည်ထားကြတဲ့ အဲဒီ ကောင်းကင်ဘုံမှာ ဖြစ်ဖို့အရေး သိပ်အားစိုက်၊ ကြိုးပမ်းကြရပါပါတယ်။ ဒါပေမဲ့ ဒါဟာ ဒီအတိုင်းမဟုတ်ဘဲ မတည်မြဲတတ်တဲ့ တခြားအရာတွေ အားလုံးလိုပဲ ကောင်းကင်ဘုံ (နတ်ဘုံ၊ နတ်နန်း) ဆိုတာတွေဟာလည်း ထာဝရမဟုတ်ကြပါဘူး။ အဲဒီမှာ သက်တမ်းစေ့လို့ စုတေရတဲ့ သတ္တဝါတစ်ဦးအနေနှင့် လူ့ပြည်မှာလည်းဖြစ်နိုင်ပါသေးတယ်။ အလားတူပဲ ငရဲဘုံဆိုတာဟာလည်း တကယ့် နေရာဌာနတစ်ခု မဟုတ်ဘဲ နူးညံ့တဲ့ ရုပ်ခန္ဓာမျိုးကို ပိုင်ဆိုင်ကြပြီး နာမ်တရားအနေနှင့်သာ အဓိကအားဖြင့် စိုးရိမ် ဆင်းရဲမှု အနိဋ္ဌာရုံသက်သက်ကိုပဲ ခံစားရသူတွေ တည်ရှိတဲ့ အခြေအနေ တရပ်မျှသာ ဖြစ်ပါတယ်။ ပြိတ္တာဘုံဘဝဆိုတာလည်း အဲဒီလိုပါပဲ။ နူးညံ့တဲ့ ရုပ်ခန္ဓာကို ပိုင်

ဆိုင်ကြတယ်။ ကာလကြာညောင်းစွာပဲ ကျေနပ်၊ ရောင့်ရဲမှုဆိုတာမျိုး လုံးဝမရှိဘဲ ဆာလောင်မွတ်သိပ်စွာ ခံစားနေကြရပါတယ်။ ဆိုတော့ နတ်ဘုံ၊ နတ်နန်းသားတွေဟာ အဓိကအားဖြင့် ပျော်ရွှင်၊ ကြည်နူးမှုကို ခံစားကြရပါတယ်။ ငရဲနှင့် ပြိတ္တာဘုံသားတွေက ဆင်းရဲ၊ ဒုက္ခတွေကိုပဲ နေ့တရှူ ခံစားကြရပါတယ်။ လူသားကတော့ ထုံးစံအတိုင်း သုခဒုက္ခတွေ ရောနှောခံစားကြရတာပဲ ဖြစ်ပါတယ်။ ဒါကြောင့် လူ့ဘဝလူ့ဘုံဌာနနှင့် တခြား တစ်ခြားသော ဘုံဌာနတွေရဲ့ အဓိကကွာခြားချက်ကတော့ ရုပ်ခန္ဓာဖွဲ့စည်းပုံနှင့် ခံစားမှု၊ အတွေ့အကြုံ အရည်အသွေးတွေပါပဲ။

မေး။ ။ ဘယ်ဘုံဌာနမှာ သွားဖြစ်မယ် ဆိုတာကိုကော ဘယ်လိုလုပ် ဆုံးဖြတ်ပါသလဲ။

ဖြေ။ ။ ဘယ်ဘုံဌာနမှာ သွားဖြစ်မယ်၊ ဘယ်ဘဝ အနေအထားမျိုးကို ပိုင်ဆိုင်မယ် ဆိုတာအတွက်တော့ ကမ္မ (ကောင်းမှု၊ မကောင်းမှုတွေကို အထမြောက်စေတဲ့ စေတနာရင်း) ဟာ သူ့ချည်းသက်သက် မဟုတ်ပေမဲ့ အရေး၊ အပါဆုံးအချက်ပဲ ဖြစ်ပါတယ်။ ကမ္မဆိုတဲ့ စကားလုံးရဲ့ အဓိပ္ပါယ်က လုပ်ရပ် (Action) ဖြစ်ပြီး၊ အဲဒီ လုပ်ရပ်တွေကို အထမြောက်စေတဲ့ ရည်ရွယ် (စေ့ဆော်) ချက် စေတနာကို ညွှန်းပါတယ်။ တနည်းပြောရရင် အတိတ်ဘဝက ဘယ်လို တွေးခေါ်ခဲ့တယ်၊ လုပ်ရပ်တွေကို လုပ်ဆောင်ရာမှာ ဘယ်ပုံ၊ ဘယ်နည်း လုပ်ကိုင်ခဲ့တယ်ဆိုတဲ့အချက်က သတ္တဝါတွေကို အများကြီး ချယ်လှယ်ပြီး အဆုံးအဖြတ်ပေးပါတယ်။ အလားတူပဲ အခုလက်ရှိဘဝမှာ လူသားဟာ ဘာတွေကို ဘယ်လိုတွေးတော ဆုံးဖြတ်တယ်၊ ဘာတွေအပေါ် ဘယ်လိုပြုမူဆောင်ရွက်တယ်ဆိုတဲ့ အချက်ကပဲ သူဟာ အနာဂါတ်မှာ ဘယ်ဘုံဘဝမှာ ဘယ်လို အတန်းအစား သွားဖြစ်မယ်ဆိုတဲ့ကိစ္စကို ကိုင်တွယ်၊ ဖန်တီးသွားပါလိမ့်မယ်။

သိမ်မွေ့၊ နူးညံ့တဲ့ စိတ်ထားရှိသူ၊ သနားကြင်နာတတ်သူတွေဟာ နတ်ဘုံ၊ နတ်ဘဝတွေနှင့် ချမ်းသာပျော်ရွှင်မှုတွေကို ခံစားခွင့်ရှိတဲ့ လူ့ဘဝ မှာဖြစ်ဖို့ အလားအလာရှိပါတယ်။ စိုးရိမ်၊ ကြောင့်ကြမှုကြီးသူတွေ၊ စိတ်ထဲ မသက်မသာနှင့် ပူဆွေးဝမ်းနည်းပြီး မကျေမချမ်းနိုင်သူတွေ၊ ဒါမှမဟုတ် ရက်စက်လွန်းတဲ့ စိတ်ထား၊ စရိုက်ရှိသူတွေကတော့ ငရဲဘဝနှင့် ဒုက္ခပင်လယ်ဝေရတဲ့ လူ့ ဆင်းရဲဘဝမျိုးကို ရတတ်ပါတယ်။ တစုံတရာကို တမ်းတမ်းစွဲဖြစ်နေတဲ့ ကာမပါဒါန်အားကြီးသူတွေ၊ ရက်စက်၊ ယုတ်နိမ့်တဲ့ စိတ်ထားရှိသူ၊ ဘယ်တော့မှ ရောင့်ရဲ၊ တင်းတိမ်မှုမရှိတဲ့ ဆန္ဒရာဂအားကြီးသူတွေကတော့ အချိန်နှင့်အမျှ ဆာလောင်မွတ် သိပ်နေရတဲ့ ပြိတ္တာဘဝမျိုး၊ လူဖြစ်ရင်တောင်မှပဲ တောင့်တရမှုတွေ၊ လိုဘမပြည့်မှုတွေနှင့် လုံးလည်လိုက်နေရတဲ့ ဘဝမျိုးကိုပဲ ရတတ်ပါတယ်။ စိတ်ပိုင်းဆိုင်ရာ အကျင့်စရိုက်တွေဟာ အခုလက်ရှိဘဝမှာ စွမ်းအားကောင်းရင် ကောင်းသလောက် လာမည့်ဘဝမှာလည်း (အကျိုးဆက် တစ်ရပ်အနေနှင့်) ဆက်လက် ဖြစ်ပေါ်နေဦးမှာပါပဲ။ ဒါပေမဲ့ လူများစုကတော့ လူ့အဖြစ်ကို ပြန်လည် ရရှိကြတာပဲ များပါတယ်။

မေး။ ။ ဒါဆိုရင် လူ့ရဲ့ ကံတရားကချည်း လူကို အဆုံးအဖြတ်ပေးတာ မဟုတ်ဘဲ၊ လူကလည်းပဲ ကံတရားကို အပြောင်းအလဲဖြစ်အောင် လုပ်နိုင်တယ်ပေါ့။

ဖြေ။ ။ သိပ် လုပ်နိုင်တာပေါ့။ မှန်ကန်တဲ့ အားထုတ်မှု (သမ္မာဝါယာမ)[၁] ဟာ မင်္ဂလာရှစ်ပါးအနက် တစ်ခုအပါအဝင် ဖြစ်နေရတာ ဒါကြောင့်ပဲပါ။ စွမ်းအင်တွေ ဘယ်လောက်ပဲ စိုက်ထုတ်ရ၊ ထုတ်ရ၊ အကျင့်စရိုက်တွေ ဘယ်လောက်ပဲ ခိုင်ခိုင်၊ ဒါဟာ မှန်ကန်တဲ့ အားထုတ်မှု သမ္မာဝါယာမအပေါ်မှာပဲ တည်မှီနေပါတယ်။ ဒါပေမဲ့ အချို့လူတွေက အတိတ်က ပါလာတဲ့ မကောင်းတဲ့ အကျင့်စရိုက်ဆိုးတွေရဲ့ ဩဇာလွှမ်းမိုးမှုအောက်မှာပဲ ဘဝတလျှောက်လုံး နေထိုင်သွားကြတယ်။ ဒါကို ပြောင်းလဲပစ်ဖို့ မကြိုးစားဘဲနှင့် ဒီ မကောင်းမှုတွေကြောင့် ဖြစ်ရတဲ့ ဝမ်းနည်းဖွယ်၊ အကျိုးဆက်တွေရဲ့ သားကောင်အဖြစ် ခံသွားကြတယ်။ ဒီ လူတွေဟာ အဲဒီ အပျက်ဆန်တဲ့ အမူအကျင့်တွေကို မပြောင်းလဲ၊ မစွန့်ပစ်မချင်း ဒုက္ခပင်လယ် ဝေနေကြဦးမှာပါ။ အဲသည်လိုမျိုး စွဲကပ်နေတဲ့ အကျင့်ဆိုးတွေဆိုတာက ကြာလေ စွန့်ပယ်ဖို့ ခက်လေပါပဲ။

ဗုဒ္ဓဘာသာဝင်တွေကတော့ ဒီအနေအထားကို နားလည်ကြတယ်။ ဒါကြောင့် ဝမ်းနည်းဖွယ်အကျိုးဆက်တွေကို ဖြစ်ပေါ်စေတဲ့ စိတ်ထားစရိုက်ဆိုးတွေကို ထိန်းချုပ်ဖို့၊ ဝမ်းသာစရာ၊ ရွှင်လန်းချမ်းမြေ့ဖွယ်ရာတွေကို ဖြစ်ပေါ်စေမည့် အမူအကျင့်ကောင်းတွေ တိုးပွားစေဖို့ အစဉ်သဖြင့် ကြိုးပမ်းကြပါတယ်။ ကိုယ်မှု၊ နှုတ်မှုတွေကို မပြုလုပ်၊ မပြောဆိုခြင်းဖြင့် ထိန်းချုပ်လို့ ရနိုင်သလို မနောကံရဲ့ အကျင့်စရိုက်၊ အစွဲအလမ်းတွေကိုလည်း ပြုပြင်ပြောင်းလဲလို့ ရနိုင်ပါတယ်။ တရားဘာဝနာ ပွားများ၊ အားထုတ်မှုဟာ မနောကံကို ပြုပြင်နိုင်တဲ့ နည်းလမ်းတစ်ခုပါပဲ။ ဗုဒ္ဓဝါဒီတွေရဲ့ ဘဝစဉ်တစ်ခုလုံးဟာ အပြစ်ကင်း၊ ဖြူစင်တဲ့နှလုံးသား၊ လွတ်လပ်တဲ့ စိတ်ထားမျိုးထားတတ်အောင် လေ့ကျင့်၊ မျိုးထောင်ယူရတာပဲ ဖြစ်ပါတယ်။ ဥပမာအားဖြင့်–သည်းခံတတ်တာနှင့်၊ သနားကြင်နာတတ်တာဟာ ပြီးခဲ့တဲ့ဘဝကတည်းက အဖြစ်များပြီး၊ လေးနက်တဲ့ အကျင့်စရိုက်တစ်ခု ဖြစ်ခဲ့မယ်ဆိုရင် အဲဒီ စရိုက်ရဲ့ သဘာဝဟာ လက်ရှိဘဝမှာလည်းပဲ ပြဌာန်းလာမှာပါပဲ။ လက်ရှိဘဝမှာလည်း အဲဒီ စရိုက်ဟာ ထပ်မံပြီး ပွားများဦးမယ်ဆိုရင်တော့ လာမည့်အနာဂါတ်ဘဝမှာလည်းပဲ အဲဒီ စရိုက်ဟာ ပိုမိုအားကောင်း၊ ပိုမိုပြီးတော့ စွဲမြဲသိသာလာမှာ မလွဲပါပဲ။ ဒါဟာ (သံသရာနှင့် ချီပြီး) ရေရှည်စွဲကပ်လာခဲ့တဲ့ အကျင့်၊ စရိုက်ဆိုးတွေဆိုတာ ကြာလေ ချေဖျက်၊ စွန့်ပယ်ရ ခက်လေပဲဆိုတဲ့ ရှင်းလင်းသိသာနိုင်တဲ့ အချက်ပဲ ဖြစ်ပါတယ်။

သည်းညည်းခံတတ်သူ၊ သနားညှာတာတတ်သူမျိုးကို ဘယ်သူကမှ တော်ရုံနှင့် စိတ်ဆိုးအောင် မလုပ်နိုင်တဲ့အတွက် အဲဒီလိုလူမျိုးမှာ အငြိုးအတေးလည်း မရှိတော့ပါဘူး။

---

၁။ သမ္မာဝါယမ–မိမိကံကြမ္မာကို မိမိကိုယ်တိုင် ဖန်တီးလျှက် အကောင်းဆုံးဖြစ်အောင် မှန်ကန်စွာ အားထုတ်မှု။

ဒီလိုလူမျိုးအတွက် သူ့ရဲ့ တွေ့ကြုံဖြတ်သန်းရတာတွေဟာလည်း ပျော်ရွှင်ချမ်းမြေ့စရာ တွေချည်း ဖြစ်နေပါလိမ့်မယ်။ နောက်တစ်ချက်က သည်းညည်း၊ ခံနိုင်ရည်ရှိပြီး၊ သနားညှာတာတတ်တဲ့ စရိုက်သဘာဝဟာ ပုဂ္ဂိုလ်တစ်ဦးအတွက် အရင်ဘဝကနေ အခု လက်ရှိဘဝထဲကို အကျင့်စရိုက်တစ်ခုအဖြစ် ပါလာတာပဲ ဖြစ်တယ်ဆိုစေဦးတော့၊ ဒါပေမဲ့ သူဟာ အခု မျက်မှောက်ဘဝမှာ အဲဒီအကျင့်ကလေးကို လျစ်လျူရှုထားမယ်၊ ပိုမိုပြီးတော့ ရှင်သန်၊ နိုင်မာလာအောင်၊ တိုးတက်၊ ပွားများလာအောင် တစုံတရာ မဆောင်ရွက်ဘူးဆိုရင် အဲဒီကောင်းတဲ့အကျင့်တွေ၊ စရိုက်တွေဟာ ဖြည်းဖြည်းချင်း ယုတ်လျော့၊ အားပျော့လာပြီးတော့ နောက်ဘဝမှာ လုံးဝ ပျောက်ပျက်၊ ကွယ်သွားနိုင်ပါတယ်။ သည်းညည်းခံတာတို့၊ သနားညှာတာတတ်တာတို့ဆိုတာတွေ မရှိသလောက် အားနည်းခေါင်းပါးသူတစ်ဦးအဖို့မှာတော့ ဒီ ဘဝမှာရော နောင်ဘဝတွေမှာပါ အဲဒီ အကြောင်းတွေကြောင့် ဖြစ်လာတဲ့ ဝမ်းနည်းဖွယ် အကျိုးဆက်တွေကို ခံယူရင်း ကိုယ့်စိတ်၊ ကိုယ်မနိုင်သူ၊ ဒေါသကုမ္ဘာရ၊ ရက်စက်သူကြီးမျိုး ဖြစ်သွားတတ်ပါတယ်။ နောက်ဆုံးပြောရရင် အခုဘဝမှာ ကိုယ့်စိတ်ကလေးမှ ကိုယ်မနိုင်တာ၊ ဒေါသအိုးဖြစ်နေကြတာတွေဟာ ပြီးခဲ့တဲ့ ဘဝကနေ ပါလာတဲ့ စိတ်ရဲ့ အကျင့်၊ စရိုက်ဆိုးလို့ပဲ ဆိုပါစို့။ အဲဒီ စရိုက်ပျော့၊ စရိုက်ဆိုးတွေဟာ မကောင်းကျိုးတွေကိုပဲ ပေးတယ်ဆိုတာ လက်ခံယုံကြည်ပြီးတော့ ဒါတွေကို ပြောင်းလဲပစ်ဖို့ ကြိုးစားပါ။ အဲဒီ အပျက်စိတ်တွေရဲ့နေရာမှာ အပြုသဘောဆန်တဲ့ စိတ်ထားကောင်းတွေနှင့် အစားထိုး ပစ်လိုက်ပါ။ ကြိုးစားမယ်ဆိုရင် တကယ်လည်းဖြစ်နိုင်တဲ့ အဲဒီ စိတ်ညံ့တွေကို အပြီးတိုင် ချေဖျက်နိုင်တယ်ဆိုရင်တော့ အဲဒီ စိတ်ပျော့၊ စိတ်ရူးတွေရဲ့ ဆိုးကျိုးတွေကနေ အပြီးတိုင် လွတ်ကင်းသွားမှာပါပဲ။ အကယ်၍ အဲစရိုက်ဆိုးတွေကို အားပျော့သွားစေရုံလောက်ပဲ တတ်နိုင်တယ်ဆိုရင်တော့ နောက်ဘဝမှာလည်းပဲ ဒါတွေဟာ အားနည်းတဲ့ ပုံစံနှင့် ထွက်ပေါ်လာအုံးမှာပါပဲ။ ဒါပေမဲ့ နောက်ဘဝမှာလည်းပဲ ပေါ်လာတဲ့ စရိုက်ဆိုးတွေကို အပြီးတိုင် ပယ်သတ်ဖို့ ဆက်လက်ကြိုးစားသွားမယ်ဆိုရင်တော့ လက်ကျန် စရိုက်ဆိုးတွေဟာ အပြီးတိုင် ချုပ်ငြိမ်းသွားနိုင်တဲ့အတွက် မနှစ်မြို့ဖွယ် အကျိုးဆက်တွေအားလုံးကနေ လုံးဝ လွတ်မြောက်နိုင်ပါသေးတယ်။

မေး။ ။ တမလွန်ဘဝနှင့်စပ်လျဉ်းလို့ အများကြီး ဆွေးနွေးခဲ့ကြပါပြီ။ လူတွေဟာ သေပြီးတဲ့နောက် ဘဝသစ်မှာ ပြန်ဖြစ်ကြကြောင်း ခိုင်လုံတဲ့ အထောက်အထားတွေကော ရှိပါသလား။

ဖြေ။ ။ တမလွန်ဘဝနှင့် ပတ်သက်လို့ ဗုဒ္ဓဘာသာတွေရဲ့ အယူအဆကို ထောက်ခံတဲ့ သိပ္ပံဆိုင်ရာ အထောက်အထားတွေ အနိုင်အမာ ရှိပါတယ်။ ဒါ့အပြင် ဗုဒ္ဓဘာသာတွေရဲ့ ဒီအယူအဆဟာ အထောက်အထား အနိုင်အမာရှိတဲ့ တစ်ခုတည်းသော "တမလွန်ဘဝဆိုင်ရာ သီဝရီ" လည်းပဲဖြစ်ပါတယ်။ ကောင်းကင်ဘုံတည်ရှိကြောင်း အထောက်အထားတစ်စုံတစ်ရာ မတွေ့ရသလို သေရင် ပြတ်တာပဲ၊ ဘာမှ ပြန်ဖြစ်မနေတော့ဘူး ဆိုတဲ့ အယူအဆအတွက်လည်း အထောက်အထား မရှိသလောက်ပါပဲ။ လွန်ခဲ့တဲ့နှစ်ပေါင်း၃၀-ကာလအတွင်း စိတ်ပိညာဉ်ဆိုင်ရာ ပညာရှင်တွေဟာ ဘဝဟောင်းက ဖြစ်ရပ်တွေကို ပြန်ပြောင်းပြောပြနိုင်သူတစ်ချို့ကို လေ့လာ၊ သုတေသနပြုခဲ့ကြပါတယ်။ နမူနာအဖြစ်ပြောရရင် အင်္ဂလန်မှာ ၅-နှစ်အရွယ် ကလေးမလေးတစ်ယောက်က သူ့မရဲ့ ဘဝဟောင်းက မိခင်၊ ဖခင်တွေကို မှတ်မိကြောင်း ထုတ်ဖော်၊ ပြောဆိုခဲ့ပါတယ်။ တစ်ခြားသူတစ်ဦးရဲ့ ဖြစ်ရပ်တွေကို ပြောပြတဲ့ ပုံစံအတိုင်းပဲ သူမကိုယ်တိုင်ရဲ့ အတိတ်ဘဝက အဖြစ်အပျက်တွေကို တိတိကျကျ ပြောပြပါတယ်။ စိတ်ပညာရှင်တွေ စုပြုံရောက်ရှိလာကြပြီး ရာချီတဲ့မေးခွန်းတွေ မေးကြတာကိုလည်း ဖြေဆိုခဲ့ပါတယ်။ စပိန်နိုင်ငံက ရွာတစ်ရွာမှာ သူမ နေထိုင်ခဲ့ရပုံ၊ အဲဒီရွာရဲ့နာမည်၊ သူမ နေထိုင်ခဲ့တဲ့လမ်းနှင့် အိမ်နီးနားချင်းတွေရဲ့ နာမည်တွေ၊ အဲဒီတုန်းက သူမရဲ့ နေ့စဉ်ဘဝတွေကို အသေးစိတ် ပြောပြပါတယ်။ ပြီးတော့ သူမဟာ ကားတိုက်ခံရပြီး၊ နောက် နှစ်ရက်အကြာမှာ အဲဒီ ဒဏ်ရာနှင့်ပဲ ကွယ်လွန်ခဲ့ရပုံတွေကို မျက်ရည်တွေတွေကျရင်း ပြောပြရှာပါတယ်။ စိတ်ပညာရှင်တွေက သူမပြောပြတဲ့အချက်တွေကို လိုက်လံစုံစမ်းကြည့်တော့ အားလုံးအမှန်အတိုင်းဖြစ်နေတာ တွေ့ကြရပါတယ်။ အဲဒီ ၅-နှစ်သမီးကလေး ပြောပြတဲ့နာမည်နှင့် စပိန်မှာ တကယ်ပဲ ရွာတစ်ရွာရှိပါတယ်။ အဲဒီရွာရဲ့ လမ်းထဲမှာလည်း သူမပြောပြတဲ့ ပုံစံအတိုင်းပဲ အိမ်တစ်လုံးရှိပါတယ်။ ကုန်ကုန်ပြောရရင် အဲဒီ အိမ်မှာ နေထိုင်ခဲ့တဲ့ အသက် ၂၃-နှစ်အရွယ် အမျိုးသမီးကလေးတစ်ယောက် လွန်ခဲ့တဲ့ငါးနှစ်က ကားတိုက်ခံရလို့ ကွယ်လွန်ခဲ့တယ်ဆိုတာကိုလည်း သိကြရပါတယ်။

ကဲ၊ စပိန်ကို တစ်ခေါက်မှလည်း မရောက်ဖူးသေးတဲ့ အင်္ဂလန်သူ အသက် ၅-နှစ်အရွယ် ကလေးမလေးက အဲဒါတွေကို အတိအကျ သိနေတယ်ဆိုတာ ဘယ်လိုလုပ်ဖြစ်နိုင်ခြေ ရှိမှာလဲ။ ဒီလိုမျိုးဖြစ်ရပ်တွေဟာ ဒီမျှတွင်သာ မဟုတ်ပါဘူး။ ဗာဂျီးနီးယား တက္ကသိုလ် စိတ်ပညာဌာနက ပါမောက္ခ အိုင်းစတီဗင်ဆင် (Ian Stevenson) က သူ့ရဲ့ စာအုပ်ထဲမှာ အဲဒီလိုမျိုး လူဝင်စားအဖြစ်ပေါင်းများစွာကို ဖော်ပြထားပါတယ်။ သူဟာ ဘဝဟောင်း ပြန်ပြောင်းပြောပြနိုင်တဲ့ (ဇာတိဿရဉာဏ် ရတဲ့) လူဝင်စားတွေကို ၂၈-နှစ်ကြာ လေ့လာသုတေသနပြုခဲ့တဲ့ နာမည်ကြီး သိပ္ပံပညာရှင် တစ်ဦးဖြစ်ပြီးတော့ သူ့ရဲ့လေ့လာ

တွေ့ရှိချက်တွေက တမလွန်ဘဝနှင့် ပတ်သတ်တဲ့ ဗုဒ္ဓတရားတော်အတွက် သိပ်အားရှိတဲ့ အထောက်အထားတစ်ရပ် ဖြစ်ခဲ့ပါတယ်။[၇]

မေး။ ။ တမလွန်ဘဝကို ပြန်ပြောင်း အမှတ်ရနိုင်စွမ်းရှိတယ်ဆိုပြီး ပြောပြနေကြတာတွေဟာ မာရ်နတ် (နတ်ဆိုး) တွေရဲ့ လုပ်ရပ်ပဲဖြစ်တယ်လို့ တစ်ချို့က ပြောကောင်းပြောကြပါလိမ့်မယ်၊ ဒါဆိုရင်ကော။

ဖြေ။ ။ ကိုယ်ရဲ့ ယုံကြည်ချက်နှင့် မကိုက်ညီတဲ့ အရာတိုင်းကိုတော့ မာရ်နတ်တွေရဲ့ လုပ်ရပ်ပဲ ဖြစ်တယ်ဆိုပြီး ဒီအတိုင်း ပယ်ချလို့ မရနိုင်ပါဘူး။ တကယ်ဆွေးနွေးလိုတယ်ဆိုရင် အတွေးအခေါ်တစ်ရပ်ကို လက်ခံဖို့ရန် သဘာဝကျတဲ့ ဖြစ်ရပ်တွေကို ထုတ်ပြလာတဲ့အခါ ဆင်ဆင်ခြင်ခြင်ရှိတဲ့ အယူအဆ၊ အပြောအဆိုတွေကိုပဲ သုံးပါ။ အဲဒီ ယုတ္တိကန်တဲ့ ဖြစ်ရပ်တွေဟာ သဘာဝမကျဘူး၊ မာရ်နတ်လက်ချက်ကြောင့် ဖြစ်တာပဲဆိုတဲ့ အယူသည်းတဲ့ အသုံးအနှုန်းတွေကို မသုံးမိပါစေနဲ့ (ရှောင်ပါ)။

မေး။ ။ မာရ်နတ်နှင့် ပတ်သက်လို့ပြောရရင် အယူသည်းတာပဲ ဖြစ်တယ်လို့ ဆိုထားလေတော့ တမလွန်ဘဝနှင့် ပတ်သက်ရင်လည်းပဲ ဒါဟာ နည်းနည်းတော့ အယူသည်းရာ ရောက်တယ်လို့ မဆိုနိုင်ပေဘူးလား။

ဖြေ။ ။ အယူသည်းမှု (Superstition) ဆိုတာကို အဘိဓာန်က – ကြောင်းကျိုးဆက်နွယ်မှုပေါ်တွင် အခြေမခံ၊ ဒိဋ္ဌဓမ္မ အခြေအနေတွေကိုလည်း ပဓာနမပြုဘဲ မှော်အတတ်တို့၊ မျက်လှည့်တို့ဆိုင်ရာတွေမှာလို အတွေးစိတ်ကူး သက်သက်ပေါ်မှာသာ အခြေပြုတွေးခေါ်တဲ့ ယုံကြည်မှုလို့ ဖွင့်ဆိုပါတယ်။ မာရ်နတ်ရှိကြောင်းနှင့် ပတ်သက်လို့ သိပ္ပံပညာရှင်တစ်ဦးဦးက စူးစူးစိုက်စိုက်လေ့လာပြီး ရေးသားဖော်ထုတ်ချက်တစ်ခုခုကို ထုတ်ပြနိုင်မယ်ဆိုရင်တော့ မာရ်နတ်ယုံကြည်မှုဟာ အယူသည်းမှု မဟုတ်တော့ဘူးလို့ လက်ခံရပါလိမ့်မယ်။ ဒါပေမဲ့ မာရ်နတ်နှင့်ပတ်သက်လို့ အဲဒီလို လေ့လာစူးစမ်းတဲ့ သုတေသနမျိုးလုပ်ကြတာ မကြားမိသေးပါဘူး။ ဒီလိုမျိုးကိစ္စတွေကို လေ့လာဖို့ရန်လည်း ဘယ်သိပ္ပံပညာရှင်ကမှ တကူးတကပြုပြီး ဒုက္ခခံချင်မှာ မဟုတ်ပါဘူး။ ဒါကြောင့် မာရ်နတ်ရှိကြောင်း အထောက်အထားမရှိဘူးလို့ပဲ ဆိုရပါလိမ့်မယ်။ ဒါပေမဲ့ ဆွေးနွေးခဲ့ကြပြီးတဲ့ အတိုင်းပဲ တမလွန်ဘဝဆိုတဲ့အရာဟာ အမှန်တကယ် ဖြစ်ပျက်လျက်ရှိတယ်လို့ ယူဆရတဲ့ အထောက်အထားတော့ ရှိပါတယ်။ ဒါကြောင့် တမလွန်ဘဝဆိုင်ရာ ယုံကြည်မှုဟာ ဖြစ်

---

၇။ ဖတ်ရှုရန်။ Twenty Cases Suggestive of Reincamation and cases of Reincarnation Type, University Press of Virginia, Charlotteville USA 1975

ရပ်မှန် အထောက်အထား အနည်းငယ်ပေါ်မှာ အခြေခံတယ်ဆိုရင်ပဲ ဒါဟာ အယူသည်းမှုလို့ မဆိုနိုင်တော့ပါဘူး။

မေး။ ။ ကောင်းပါပြီ၊ ဒါဆိုရင် တမလွန်ဘဝကို ယုံကြည်လက်ခံတဲ့ သိပ္ပံပညာရှင်တစ်ယောက်တစ်လေကော ရှိပါသေးသလား။

ဖြေ။ ။ ရှိပါတယ်။ သူကတော့ ၁၉–ရာစု ဗြိတိသျှ ပညာရေးစံနစ်နှင့် သိပ္ပံဘာသာကို မိတ်ဆက်ပေးခဲ့သူ သောမတ်စ် ဟတ်စ်လေ (Thomas Huxley) ပဲ ဖြစ်ပါတယ်။ သူဟာ ဒါဝင်သီဝရီကို ကာကွယ်ပြောဆိုပေးတဲ့ ပထမဆုံးသော သိပ္ပံပညာရှင်လည်းဖြစ်ပြီးတော့ လူဝင်စားကိစ္စဟာများစွာ ဖြစ်နိုင်ခြေရှိတဲ့ အယူအဆ တစ်ရပ်ဖြစ်တယ်လို့ ယုံကြည်သူလည်း ဖြစ်ပါတယ်။ သူ့ရဲ့ နာမည်ကျော်စာအုပ်တစ်အုပ်ဖြစ်တဲ့ **Evolution and Ethics and other Essays** စာအုပ်ထဲမှာ အခုလို ရေးသားခဲ့ပါတယ်။

"ယင်းတို့၏ မူရင်းကျမ်းစာများထဲတွင် (မတူကွဲပြားစွာဖြင့်) မည်သို့ပင်ရှိနှင့်နေကြသည်ဖြစ်စေ၊ ဘဝကူးပြောင်းခြင်း ကိစ္စနှင့်ကား ဗြာဟ္မဏဝါဒနှင့် ဗုဒ္ဓဝါဒအတွေး၊ အမြင်များမှာ စကြာဝဠာဖြစ်စဉ်မှသည် လူသားဖြစ်စဉ် အပါအဝင်အထိ အကျိုးအကြောင်းဆက်စပ်မှုရှိရှိ ယုတ္တိကျကျ ဖော်ပြချက်များကို စုစည်းထားသည့် အစိပ်ပိုင်းများဖြင့် တည်ဆောက်ထားကြလေသည်။ မှုမှုတတရှိလှသည့် ဤဖော်ပြချက်သည် တစ်ခြားသော ဘာသာအယူဝါဒဆိုင်ရာ သီဝရီများထက်များစွာ ဆီလျော်မှု ရှိပါသည်။ ပေါ့ပွတ်စွာ တွေးခေါ်သုံးသပ်တတ်သူများမှအပ အခြေခံ လွဲမှားနေသည့် ယူဆချက်တစ်ရပ်အဖြစ် ဤအယူကို မည်သူကမှ ပျက်ရယ်ပြုလိမ့်မည် မဟုတ်ပေ။ ဆင့်ကဲပြောင်းလွဲမှုဖြစ်စဉ် သီဝရီကဲ့သို့ပင် ဤဘဝကူးအသနသည်လည်း ဖြစ်ရပ်မှန် နယ်ပယ်ထဲ၌ အခြေပြုထားလေသည်။ အငြင်းပွားမှုကို ညှိနှိုင်းခြင်းဖြင့် ဖြေရှင်းနိုင်သလို ဤဘဝကူးကိစ္စ၌လည်း ဆင့်ကဲပြောင်းလဲမှု သီဝရီကဲ့သို့ပင် အလားတူ အဖြေရှာမှုမျိုးကို ရယူနိုင်ပါသည်။"

သိပ္ပံပညာရှင် အိုင်စတိုင်းရဲ့ မိတ်ဆွေတစ်ဦးဖြစ်တဲ့ နာမည်ကျော် ဆွီဒင်လူမျိုး နက္ခတ္တဗေဒနှင့် ရူပဗေဒပညာရှင် ပါမောက္ခ ဂူစတာ–ဗ် စထရန်ဘာ–ဂ် (Gustaf Stromerg) ကလည်း တမလွန်ဘဝဆိုင်ရာ အယူအဆတစ်ရပ်ကို အောက်ပါအတိုင်း ဖော်ထုတ်၊ ရေးသားခဲ့ပါတယ်။

"လူသားဟာ ကမ္ဘာမြေပြင်ပေါ်မှာ နောက်ထပ်တစ်ကြိမ် ပြန်လည် ဝင်စားလာနိုင်တယ်၊ မဝင်စားနိုင်ဘူးဆိုတဲ့ အချက်ပေါ်မှာ အမြင်တွေအမျိုးမျိုး၊ ကွဲလွဲနေကြပါတယ်။ ၁၉၃၆-ခုနှစ်မှာတော့ အိန္ဒိယအစိုးရ အာဏာပိုင်တွေက သိပ်စိတ်ဝင်စားဖွယ်ကောင်းတဲ့ ကိစ္စတစ်ရပ်ကို အစအဆုံး စုံစမ်းဖော်ထုတ်ခဲ့ကြပါတယ်။ သျှန္တီဒေဝီ (Shanti Devi) ဆိုတဲ့ ဒေလီမြို့သူလေး တစ်ဦးဟာ သူမကို အခု ဘဝမှာ မမွေးဖွားမီ တစ်နှစ်ခန့်က ဒေလီကနေ မိုင် ၅၀၀-ကွာဝေးတဲ့ မုတ္တရာဒေသမှာ နောက်ဆုံးဖြစ်ပျက်ခဲ့တဲ့ သူမရဲ့ အတိတ်ဘဝဟောင်းကို မှန်ကန်စွာဖော်ထုတ်၊ ပြောဆိုနိုင်ခဲ့ပါတယ်။ အဲဒီ ဘဝတုန်းက သူမခင်ပွန်းနှင့် ကလေးရဲ့နာမည်တွေ၊ နေထိုင်ခဲ့တဲ့ အိမ်ပုံစံနှင့် ဘဝဖြစ်စဉ်တွေကို ပြောပြခဲ့ပါတယ်။ စုံစမ်းရေးကော်မီရှင်က သူမကို ဆွေဟောင်း၊ မျိုးဟောင်းတွေဆီ ခေါ်ဆောင်သွားပြီးတွေ့ဆုံပေးတော့ သူမရဲ့ ပြောကြားချက်တွေ အားလုံးဟာ မှန်ကန်ကြောင်း ဆွေမျိုးတွေက ဝန်ခံပြောဆိုခဲ့ကြပါတယ်။ အိန္ဒိယက လူတွေအတွက်တော့ လူဝင်စားကိစ္စဆိုတာ အဆန်းအပြားလို့တောင် မယူဆကြပါဘူး။ ဒါပေမဲ့ အဲဒီမိန်းကလေးရဲ့ ဘဝဟောင်းက ဖြစ်ရပ်များစွာကို အမှန်အတိုင်း မှတ်မိနေသေးတာကိုတော့ တအံ့တသြ ဖြစ်ကြရပါတယ်။ (ဘဝကူးပေမဲ့) မှတ်ဉာဏ်ဟာ မမေ့မပျောက်တဲ့ သဘာဝရှိတယ်ဆိုတဲ့ အယူအဆကို ဒီဖြစ်ရပ်နှင့် တခြား အလားတူဖြစ်ရပ်တွေက ခိုင်မာအောင် အားဖြည့်ပေးတဲ့ သာဓကတွေပဲ ဖြစ်တယ်လို့ ယူဆနိုင်ပါတယ်"။

ထင်ရှားတဲ့ ဗြိတိသျှ သိပ္ပံပညာရှင်တစ်ဦး ဖြစ်ပြီးတော့ ယူနက်စကို (UNESCO) အဖွဲ့ကြီးရဲ့ ညွှန်ကြားရေးမှူးချုပ်လည်းဖြစ်တဲ့ ပါမောက္ခ ဂျူးလီယန်ဟတ်စ်လေ (Prof. Julian Huxley) ကလည်း တမလွန်ဘဝဟာ သိပ္ပံအမြင်နှင့် လုံးဝ တထပ်တည်းကျတယ်လို့ ယူဆပါတယ်။

"အလူမှုထုတ်လုပ်ထားသည့် ထုတ်လွှင့်ကိရိယာက တိကျသည့်ကြေးနန်းတစ်စောင်ကို ထုတ်လွှင့်သကဲ့သို့ သေလွန်ပြီးနောက် တစ်နည်းအားဖြင့် လွတ်အပ်သော ထာဝရတည်မြဲသော ဝိညာဉ်အတ္တဘော ဆိုသည့်အရာကို လက်မခံနိုင်စရာ အကြောင်း လုံးဝမရှိပါ။ ကြိုးမဲ့ကြေးနန်းစာသည် အသွင်သစ်၊ ရုပ်ဖွဲ့စည်းမှုတစ်ခုအဖြစ်ဖြင့် လက်ခံစက်ကိရိယာနှင့် ဆက်သွယ်မိသည့်အခါတွင်မှသာ (ကြေးနန်းစာ အဖြစ်မှသည် ရိုးရိုး) စာတစ်စောင် ပြန်ဖြစ်သွားသည်ဆိုတာကို သတိချပ်ရမှာ ဖြစ်ပါတယ်။ ထိုနည်းအတိုင်းပဲ သတ္တဝါတို့၏ သိစိတ်ဝိညာဉ်ဖြစ်ပေါ်လာပုံနှင့် ပတ်သက်၍ တစ်နည်းနည်းအားဖြင့် ရုပ်ကလာပ်အနေနှင့်ဖြစ်ပေါ်မလာမချင်း တွေးတောမှု၊ ခံစားမှုဟူ၍လည်း လုံးဝမရှိနိုင်ပေ။ ကျွန်ုပ်တို့

၏ နာမ်ခန္ဓာများသည် အမှန်တကယ်ဖြစ်တည်လျှက် ရှိသည်ဟူ၍ပင် စဉ်းစား၍ မရနိုင်လောက်အောင်ကို ရုပ်ခန္ဓာများပေါ်တွင်သာ မှီခိုနေရပေသည်။ စင်စစ် နာမ်ခန္ဓာဟူသည် ခန္ဓာစင်စစ် မဟုတ်ဘဲ ဖြစ်တည်မှုသက်သက်သာ ဖြစ်ချေသည်။ (ကြေးနန်းစာကို ရိုးရိုးစာအဖြစ်ဖြင့်) လွှဲပြောင်း၊ လက်ခံယူသည့် စက်သို့ ရေးရှုထုတ်လွှင့်သည့် ကြေးနန်းစာတစ်စောင်ကဲ့သို့ပင် (မိဘလောင်းများ ဖြစ်ကြသည့်) အမျိုးသား၊အမျိုးသမီးတို့အား အလားတူ ဆက်သွယ်မှုကို ဖြစ်ပေါ်စေသော ထုတ်လွှင့်ပုံတစ်မျိုးကို ကျွန်ုပ် စဉ်းစားကြည့်မိပေသည်။ သို့ရာတွင် လူအများ မြင်သာ၊ သိသာသည့်အတိုင်း နာမက္ခန္ဓာအား လက်ခံသည့်ကိရိယာစက်အဖြစ် အသုံးတော်ခံမည့် အဆိုပါ တစ်စုံတစ်ရာနှင့် ဆက်သွယ်မိခြင်းဖြင့် အသိစိတ် အမှန်တကယ် ပေါ်ထွန်းမလာမချင်း စကြာဝဠာအနှံ့ ပျံ့လွင့်နေမည့် အသီးသီးသော နမူနာ အတ္တဘောများမှအပ သေခြင်း၏ နောက်ကွယ်ဝယ် ဘာမှမရှိပေ။”

အမေရိကန် စက်မှုနည်းပညာရှင် ဟင်နရီဖော့ဒ် (Henry Ford) တို့လို သိပ်လက်တွေ့ဆန်ပြီး ကမ္ဘာသိကျော်ကြားသူတွေကတောင် တမလွန်ဘဝရဲ့ ဖြစ်နိုင်ခြေရှိပုံတွေကို တွေ့ရှိခဲ့ကြပါတယ်။

တမလွန်ဘဝ အယူအဆဟာ ဖန်ဆင်းရှင်ဝါဒ (theistic idea) နှင့်သော်လည်းကောင်း၊ ရုပ်ဝါဒ (Materialistic idea) နှင့်သော်လည်းကောင်း မတူညီမှု၍ နောင်ဘဝမှာ လူသားရဲ့ တိုးတက်ရေးအတွက် ထပ်ဆင့်အခွင့်အလမ်း (Second chance) ပေးထားပါသေးတယ်။ ဒီအချက်တွေကြောင့် ဖော့ဒ်ဟာ တမလွန်ဘဝဝါဒကို စိတ်ပါဝင်စားခဲ့တာ ဖြစ်ပါတယ်။ သူက အခုလိုဆိုခဲ့ပါတယ်။

“ကျွန်တော့် အသက် ၂၆–နှစ် အရွယ်မှာ လူဝင်စား အယူအဆကို လက်ခံဖြစ်ခဲ့ပါတယ်။ ဒီလို လက်ခံဖို့အတွက် ဘာသာရေး အရှိန်အဝါ လွှမ်းမိုးခံရတာမျိုး လုံးဝ မရှိခဲ့ပါဘူး။ လုပ်ငန်း အတွေ့အကြုံကတောင် ကျေနပ်မှုအပြည့်အဝ မပေးနိုင်ခဲ့ပါဘူး။ မျက်မှောက်ဘဝကနေ စုစည်း၊ ဖြတ်သန်းခဲ့ရတဲ့ အတွေ့အကြုံတွေကို နောင်လာမည့်ဘဝမှာ ချသုံးလို့ မရနိုင်ကောင်းဘူးဆိုရင် အလုပ်ဆိုတာလည်း အလဟဿပါပဲ။ လူဝင်စားကိစ္စကို တွေ့ရှိရတာဟာ စကြာဝဠာရဲ့ ဖြစ်စဉ်ကို တွေ့ရှိရသလိုပါပဲ။ ကိုယ့်ရဲ့ အတွေးအခေါ် အတွေ့အကြုံတွေကို တိုးတက်၊ ကောင်းမွန်လာအောင်လုပ်ဖို့ရာ အခွင့်အလမ်းရှိသေးတယ်လို့ သဘောပေါက်လိုက်ပါတယ်။ အချိန်ကာလဆိုတဲ့အရာမှာ ရှည်လျားမှု၊ တိုတောင်းမှုဆိုတဲ့ အကန့်အသတ် မရှိပါဘူး။ (ဒါကြောင့်လည်း) ကျွန်တော်ဟာ အချိန်နာရီ လက်တံရဲ့ ကျေးကျွန်ဘဝမှ လွတ်မြောက်ခဲ့ရပါတယ်။ [illegible]မိ (တူးချွန်ထက်

မြက်မှု) ဆိုတာဟာလည်း အတွေ့အကြုံ တစ်ရပ်ပါပဲ။ တစ်ချို့က ဒါဟာ (ဖန်ဆင်းရှင် ပေးအပ်ချီးမြှောက်တဲ့) လက်ဆောင်ပဏ္ဏာ၊ ဒါမှမဟုတ် ပင်ကိုယ်စွမ်းရည်ပဲ ဖြစ်တယ်လို့ ထင်မြင်ကြပုံရပါတယ်။ စင်စစ်မှာတော့ ဒါဟာ ဘဝအဆက်ဆက်ကနေ ပါလာတဲ့၊ ရင့်ကျက်တဲ့ အတွေ့အကြုံတွေရဲ့ အကျိုးဆက်ပဲ ဖြစ်ပါတယ်။ တစ်ချို့သူတွေဟာ တစ်ခြားသူတွေထက် ပါရမီ ရင့်သန်ကြလေတော့ ပိုမိုပြီး အသိကြွယ်ကြတာပေါ့။ ကျွန်တော့်အဖို့တော့ လူဝင်စားကိစ္စတွေ ရှိချက်ကို အတော်လေး ကြည်နူး၊ နှစ်သိမ့်မှု ဖြစ်ရပါတယ်။ အခု ဆွေးနွေးခဲ့တာတွေနှင့် စပ်လျဉ်းလို့ မှတ်တမ်းမှတ်ရာတွေ ရှိကြရင်လည်း လူတွေရဲ့ စိတ်ထဲ သက်သာရာလေး ရကြလေအောင် စာအဖြစ် ရေးကြစမ်းပါ။ ကျွန်တော့်အနေနှင့် ရှည်လျား၊ ရင့်ကျက်တဲ့ ဘဝအမြင်နှင့်ယှဉ်တဲ့ ငြိမ်းချမ်းမှုရသကို တခြားလူတွေကိုလည်း မျှဝေပေးလိုပါတယ်။"

ဒီတော့ – တမလွန်ဘဝဆိုင်ရာ ဗုဒ္ဓဘာသာ ဒေသနာတော်တွေကို ထောက်ခံချက်ပေးတဲ့ သိပ္ပံအထောက်အထားတချို့ ရှိကို ရှိပါတယ်။ ဗုဒ္ဓဘာသာရဲ့ တမလွန်ဘဝဝါဒဟာ ယုတ္တိတန်တဲ့ အမြင်ဖြစ်တဲ့အပြင်၊ ဖန်ဆင်းရှင်ဝါဒနှင့် ရုပ်ဝါဒတွေက အဖြေမပေးနိုင်တဲ့ မေးခွန်းတွေကို ဖြေဆိုနေတာပဲ ဖြစ်ပါတယ်။ အားတက်သရောလည်း ရှိလှပါတယ်။ ထပ်ဆင့် အခွင့်အလမ်း **(Second Chance)** မရှိ၊ ဒီဘဝမှာ လုပ်မိ၊ မှားခဲ့ပြီးတဲ့ အမှားတွေကို ပြန်ပြင်ခွင့်မရ၊ ဒီဘဝက ရယူခဲ့တဲ့ အရည်အချင်းတွေ၊ အစွမ်းအစတွေကို ပိုမို ကောင်းမွန်၊ တိုးတက်အောင် လုပ်ဖို့ရန်လည်း အခြေအနေ မပေးတော့တဲ့ ဘဝသိဝရီ မျိုးထက် ဆိုးတာဘယ်မှာ ရှိပါဦးမှာလဲ။ ဗုဒ္ဓရဲ့ အဆိုအရတော့ ဒီဘဝမှာ နိဗ္ဗာန်မရနိုင်သေးဘူးဆိုရင်တောင်မှ နောက်၊ နောင်ဘဝတွေမှာ ဆက်လက်ကြိုးစားသွားနိုင်တဲ့ အခွင့်အလမ်း ရှိသေးတယ်။ အခုဘဝမှာ လုပ်မှားမိထားတာတွေကို နောက်ဘဝမှာ ပြန်လည်ပြုပြင်ခွင့် ရနိုင်သေးတယ်။ လုပ်မှားမိခဲ့သမျှတွေထဲက အမှန်သင်ခန်းစာကို ထုတ်ယူနိုင်သေးတယ်။ ဒီဘဝမှာ မလုပ်နိုင်ခဲ့၊ မရယူနိုင်ခဲ့တာတွေကို လာမည့်ဘဝမှာ လုပ်ယူလို့ ရနိုင်သေးတာပဲတဲ့။ ကဲ၊ ဘယ်လောက်ကောင်းတဲ့ ဒေသနာတော်ပါလဲ။

## ကမ္မဋ္ဌာန်းဘာဝနာ

မေး။ ။ ဘာဝနာ ပွားများမှု ဆိုတာက ဘယ်လိုပါလဲ။

ဖြေ။ ။ ဘာဝနာပွားများတယ်ဆိုတာ စိတ်ရဲ့ လုပ်ပုံကိုင်ပုံတွေကို အသိရှိရှိနှင့် ပြောင်းလဲပစ်ဖို့ ကြိုးစားတာပဲ ဖြစ်ပါတယ်။ တရားအားထုတ်မှု (Meditation) ဆိုတာကို ပါဠိဘာသာအားဖြင့် ဘာဝနာလို့ ခေါ်ပြီး၊ တိုးပွားအောင်လုပ်ခြင်း၊ တိုးတက်၊ ပွားများစေခြင်းလို့ အဓိပ္ပါယ်ရပါတယ်။

မေး။ ။ တရားအားထုတ်မှုဟာ သိပ်အရေးပါ ပါသလား။

ဖြေ။ ။ ဟုတ်ပါတယ်။ အရေးကြီးတဲ့ ကိစ္စတစ်ခုပါပဲ။ ဘယ်လောက်ပဲ အကောင်းဖြစ်စေချင်တဲ့ ဆန္ဒထက်သန်ပါစေ၊ ယခင့်၊ ယခင်က လုပ်နည်းလုပ်ဟန်တွေအတိုင်းပဲ လုပ်ကိုင်ဆုံးဖြတ်ဖြစ်အောင် တွန်းပို့နေတဲ့ ဆန္ဒတဏှာအစွဲတွေကို မပယ်မလှန်နိုင်မချင်း ဘယ်အပြောင်းအလဲမှ ဖြစ်လာမှာ မဟုတ်ပါဘူး။ ဥပမာ - မိန်းမအပေါ် သည်းခံ၊ ခွင့်လွှတ်နိုင်မှု ခေါင်းပါးတဲ့ လူတစ်ဦးဟာ သူ့ဟာသူ သဘောပေါက်လာတာကြောင့် ခုအချိန်ကစပြီး ငါဟာ ကိုယ့်မိန်းမအပေါ် သည်းခံခွင့်လွှတ်ပြီးတော့ ညှာညှာတာတာပဲ ဆက်ဆံတော့မယ်လို့ ပိုင်းဖြတ်ထားတယ်ဆိုပါတော့၊ ဒါပေမဲ့ နောက်တစ်နာရီလောက် အကြာမှာပဲ သူဟာ မိန်းမကို အရင်ကအတိုင်း အော်၊ ငေါက်တော့တာပါပဲ။ ဒီလိုဖြစ်ရတာဟာ သတိလစ်သွားလို့ ဖြစ်ပါတယ်။ သည်းခံတတ်လေ့မရှိတဲ့ ဓါသီက သူ မသိလိုက်ပဲနှင့်ကို ဖြစ်ပေါ်လာခဲ့တာ ဖြစ်တယ်။ တရားဘာဝနာအားထုတ်မှုက အခုလို စွဲကပ်နေတဲ့ စိတ်အစွဲ၊ အလမ်းတွေကို ပယ်စွန့်ရာမှာ လိုအပ်တဲ့ အသိစိတ်ဓါတ်နှင့်၊ စွမ်းအင်တွေ တိုးတက်ဖြစ်ပေါ်လာအောင် အကူအညီပေးပါတယ်။

မေး။ ။ ကမ္မဋ္ဌာန်းတရား အားထုတ်တာဟာ အန္တရာယ်ရှိနိုင်တယ်လို့ ကြားဖူးပါတယ်။ ဟုတ်မှန်ပါသလား။

ဖြေ။ ။ အသက်ရှင်ဖို့အတွက် ဆားဓါတ်လိုအပ်တာ မှန်ပေမဲ့ ဆားအလေးချိန် တစ်ကီလိုဂရမ်ကို တစ်ကြိမ်တည်းနှင့် စားပစ်လိုက်မယ်ဆိုရင်တော့ သေနိုင်ပါတယ်။ အလားတူပဲ ယနေ့ခေတ်မှာ လူလူသူသူ ရပ်တည်နိုင်ရေးအတွက် မော်တော်ကားရှိမှဖြစ်လိုအပ်လှပါတယ်။ ဒါပေမဲ့ ယာဉ်စည်းကမ်းမလိုက်နာဘူး၊ ဒါမှမဟုတ် မူးနေတုန်း ကား

မောင်းမယ်ဆိုရင်တော့ ကားဆိုတာ အန္တရာယ်ရှိတဲ့ ယန္တရားတစ်ခု ဖြစ်သွားနိုင်ပါတယ်။ တရားအားထုတ်မှုဆိုတာလည်း ဒီနည်းအတိုင်းပါပဲ။ စိတ်ခါတ်၊ ကြံ့ခိုင်ရေးအတွက် တရားဘာဝနာပွားများ အားထုတ်မှုဟာ မရှိမဖြစ် လိုအပ်လှပါတယ်။ ဒါပေမဲ့ မိုက်မဲ၊ လွဲမှားတဲ့ နည်းလမ်းတွေနှင့်သာ အားထုတ်မယ်ဆိုရင်တော့ အခက်အခဲတွေနှင့် တိုးမှာပါပဲ။ တချို့လူတွေမှာ သိမ်ငယ်တဲ့စိတ်၊ အကြောင်းမဲ့ ကြောက်စိတ်နှင့် စိတ်ကစဉ့်ကလျား ဖြစ်မှုတွေလိုမျိုး အခက်အခဲတွေ ရှိတတ်ကြပါတယ်။ တရားအားထုတ်တာဟာ သူတို့တွေရဲ့ အခက်အခဲတွေကို ချက်ခြင်းလက်ငင်း ကုစားပေးမှာပဲလို့ ယူဆထားကြတယ်၊ သူတို့စတင်အားထုတ်ကြတယ်၊ တစ်ခါ တစ်ခါမှာတော့ သူတို့တွေဟာ ပိုမို ဆိုးဝါးတဲ့ အခက်အခဲတွေနှင့် ရင်ဆိုင်၊ တတ်ကြရပါတယ်။ ကိုယ့်မှာ ဒီလို အခက်အခဲတွေသာ ရှိခဲ့လို့ရှိရင် ဆရာဝန်ရဲ့ အကူအညီကို အရင်ရယူပြီးတော့မှ တရားအားထုတ်တာက ပိုကောင်းပါကယ်။ နောက် တချို့ကျတော့ ကိုယ်တတ်နိုင်တာထက် ပိုပိုပြီးတော့ အားထုတ်ကြတယ်။ ဖြည်းဖြည်းချင်း တဆင့်ပြီးတဆင့် အားထုတ်ရမယ့်အစား သိပ်ကြီးမားတဲ့ စွမ်းအင်တွေ သုံးဖြုန်းပြီး အချိန်တွေ အကြာကြီး အားထုတ်ကြလေတော့ မကြာခင်မှာပဲ ခြေကုန်လက်ပန်း ကျသွားတတ်ကြပါတယ်။ ဒါပေမဲ့ တရားအားထုတ်ရာမှာ ကြုံရတဲ့အခက်အခဲ အများစုကတော့ သားပိုက်ကောင်ဘာဝနာ (Kangaroo Meditation) လို့ ခေါ်ရမည့် ဟိုစပ်စပ်၊ ဒီစပ်စပ် အားထုတ်နည်းကြောင့် ဖြစ်ရတာများပါတယ်။ တစ်ချို့လူတွေက ဆရာတစ်ဦးဦးဆီ သွားနည်းခံပြီး အဲဒီ ဆရာ့နည်းကလေးအတိုင်း လိုက်လုပ်ကြည့်တယ်။ တစ်ခါစာအုပ်ထဲမှာ နည်းနာကလေးတစ်ချို့ ဖတ်ရတာနှင့် ဒီနည်းကလေး ကိုလည်း စမ်းကြည့်ပြန်တယ်။ တစ်ပတ်ခန့်ကြာတော့ နာမည်ကျော် ကမ္မဋ္ဌာနာစရိယ ဆရာတစ်ဦး သူတို့မြို့ကလေးဆီကို ကြွလာတာနှင့် အဲဒီဆရာရဲ့ နည်းတွေနှင့် အရင်က ရထားပြီးသား နည်းကလေးတွေကို ပေါင်းစပ်၊ ရောမွှေပြီးတော့ အားထုတ်ဖို့ လုပ်ပြန်ပါရော။ ဒီလိုနှင့် သိပ်မကြာခင်မှာပဲ သူတို့ရထားတဲ့နည်းတွေက (အမေဘုတ် ချည်ငင်သလို) ဖြေရှင်း မရနိုင်လောက်အောင်ကို ရှုပ်ထွေးသွားတတ်ကြပါတယ်။ သားပိုက်ကောင် ခုန်သလိုပဲ နည်းတစ်ခုကနေ နောက်နည်းတစ်ခု၊ ဆရာတစ်ဦးကနေ နောက် ဆရာတစ်ဦးစသည်ဖြင့် အားထုတ်ကြတာဟာ မှားယွင်းလှပါတယ်။ စိတ်ပိုင်းဆိုင်ရာ အခက်အခဲတစ်စုံ တစ်ရာလည်း မရှိ၊ သဘာဝကျတဲ့ နည်းမှန်၊ လမ်းမှန်အတိုင်းလည်း အားထုတ်တာဖြစ်တယ်ဆိုရင်တော့ တရားဘာဝနာ ပွားများအားထုတ်ခြင်းဆိုတာဟာ မိမိ ကိုယ်တိုင်အတွက် မိမိ လုပ်နိုင်တဲ့ အကောင်းဆုံးအလုပ်ကို လုပ်ဖြစ်ခြင်း အစစ်ပါပဲ။

မေး။ ။ ကမ္မဋ္ဌာန်း အမျိုးအစားက ဘယ်လောက်ရှိပါသလဲ။

မဖြေ။ ။ ကမ္မဋ္ဌာန်းအားထုတ်သူ ယောဂီတစ်ဦးချင်းစီအနေနှင့် ထူးကဲပြီး ရှိတတ်တဲ့ အခက်အခဲတွေကို ဖြေရှင်း[illegible]နိုင်အောင် ဒါမှမဟုတ် တစ်ဦးချင်းရဲ့ သဘောသန့်

စိဖြစ်တဲ့ စိတ်အနေအထား (စရိုက်) အလိုက် တိုးတက်မှုရှိအောင် စီစဉ်ထားတဲ့ ကမ္မဋ္ဌာန်းအမျိုးအမည် အတော်များများကို ဗုဒ္ဓ ဟောတော်မူခဲ့ပါတယ်။ ဒါပေမဲ့ အသုံးအများဆုံးနှင့် အသုံးအကျဆုံး ကမ္မဋ္ဌာန်းတွေကတော့ အာနာပါနသတိနှင့်၊ မေတ္တာဘာဝနာတို့ပဲ ဖြစ်ကြပါတယ်။

မေး။ ။ အာနာပါနသတိကို အားထုတ်လိုတယ်ဆိုရင် ဘယ်လို အားထုတ်ရပါသလဲ။

ဖြေ။ ။ လွယ်ကူတဲ့ နည်းအဆင့်ကလေးတွေနှင့် စတင်ရပါလိမ့်မယ်။ ဒါတွေကတော့ အကျဉ်းချုပ် ပြောရရင် ပီ (P) လေးလုံးပါပဲ။ Place–နေရာ၊ Posture–ကိုယ်ဟန်အနေအထား၊ Practice–လက်တွေ့အားထုတ်၊ လေ့ကျင့်ပုံနှင့်၊ Problems–အခက်အခဲများ ဖြစ်ကြပါတယ်။

(၁) နေရာ – တရားအားထုတ်ဖို့ သင့်တော်တဲ့ နေရာမျိုးဖြစ်ဖို့ လိုအပ်ပါတယ်။ သိပ်ပြီးတော့လည်း ဆူဆူညံညံ မရှိ (ဖြစ်နိုင်ရင် လုံးဝနီးပါး တိတ်ဆိတ်ငြိမ်သက်တဲ့)၊ တစ်ခြား အနှောင့်အယှက်ဆိုတာလည်း မရှိတဲ့ အခန်းတစ်ခန်းလို နေရာမျိုးပေါ့။

(၂) ကိုယ်အနေအထား – သက်တောင့်သက်သာရှိတဲ့ ကိုယ်အနေအထားကို ရွေးချယ်ပြီး ထိုင်ရပါတယ်။ (အများအားဖြင့်တော့) တင်ပျဉ်ခွေပြီး ထိုင်တာဟာ ကောင်းတဲ့ အနေအထားပါပဲ။ ထိုင်တဲ့အခါ ခေါင်းအုံးလို အခင်းထူထူတစ်ခုပေါ်မှာ ထိုင်ချလိုက်ပါ။ ကျောကို ဆန့်ပြီး ကိုယ်နေမတ်မတ်ထား၊ လက်တွေ တင်ပလ္လင်ခွေပေါ်မှာ ရွရွကလေးချပြီး မျက်လုံးကို ညင်သာစွာ မှိတ်ထားပါ။ ကျောကို မတ်မတ်ဆန့်ထုတ်လို့ ရလောက်တဲ့ ကုလားထိုင်ပေါ်မှာလည်း ထိုင်မယ်ဆိုရင် ထိုင်နိုင်ပါတယ်။

(၃) လက်တွေ့အားထုတ်ပုံ – ကျကျနန ထိုင်ပြီးတဲ့နောက်မှာတော့ တကယ့်အားထုတ်မှု စတင်ပါပြီ။ မျက်လုံးကလေး မှိတ်ပြီး ထိုင်ချလိုက်တာနှင့် ထွက်လေ၊ ဝင်လေရဲ့ လှုပ်ခတ်မှုပေါ်မှာသာ စူးစိုက်သိမှတ်လို့ နေရပါမယ်။ အသက်ရှူရှိုက်မှုကို ရေတွက်၊ သိမှတ်လို့ဖြစ်စေ၊ ဒါမှမဟုတ် (အသက်ရှူရှိုက်မှုကို လိုက်ပြီး ဖြစ်ပေါ်နေတဲ့) ဝမ်းဗိုက်ရဲ့ ပိန်မှု၊ဖောင်းမှုကိုဖြစ်စေ သတိနှင့် ရှုမှတ်ရပါမယ်။

(၄) အခက်အခဲ – စတင်အားထုတ်ပြီဆိုတာနှင့် အတားအဆီး၊ အခက်အခဲတွေနှင့်တော့ တွေ့မှာပါပဲ။ ခန္ဓာကိုယ်အနှံ့ ဟိုနေရာ၊ သည်နေရာတွေက ယားယံတာ၊ ဒူးခေါင်းက ညောင်းကိုက်လာတာမျိုးတွေ တွေ့ရတတ်ပါတယ်။ ဒီလိုဖြစ်လာပြီဆိုရင် လှုပ်ရှားမှု တစ်စုံတစ်ရာမပြုဘဲ ခန္ဓာကိုယ်ကို ဖော့ပေါ့ကလေး ထားပြီး နေသာအောင် ကြိုးစားရင်း အသက်ကိုပဲ စူးစိုက်ပြီး မှန်မှန် ရှူရှိုက်နေပါ။ စိတ်ထဲမှာ အတွေးမျိုးစုံ ဝင်ရောက်လာတတ်ပြီး အသက်ရှူမှုအပေါ် စူးစိုက်

တဲ့ သတိကလေး ပျံ့လွင့်၊ ထွက်သွားတတ်ပါသေးတယ်။ ထွက်လေ၊ ဝင်လေကိုပဲ အာရုံရှူးစိုက်၊ ရှူမှတ်ရင်း သည်းညည်းခံတဲ့နည်းနှင့်သာ ပေါ်လာသမျှ အခက်အခဲတွေကို လွန်မြောက်နိုင်ပါတယ်။ ဒီနည်းအတိုင်း ဆက်သွားရင်တော့ နောက်ဆုံးမှာ အတွေးဝင်ရောက်မှုကလည်းပဲ လျော့ပါးသွားမယ်၊ အာရုံစူးစိုက်မှုဖက်က ပိုမို အားကောင်းလာပြီးတော့ စိတ်ရဲ့ နက်ရှိုင်းတဲ့ ငြိမ်သက်၊ အေးချမ်းမှုကို ရရှိသွားနိုင်ပါတယ်။

မေး။ ။ တရားအားထုတ်ရာမှာ ဘယ်လောက်ကြာကြာ အားထုတ်သင့်ပါသလဲ။

ဖြေ။ ။ စတင်အားထုတ်တဲ့ ပထမပါတ်မှာ တစ်နေ့ကို ၁၅-မိနစ်၊ နောက်အပါတ်တွေမှာ တစ်ပတ် ငါးမိနစ်စီ အချိန်ကို တိုးမြှင့်ယူပြီး ၄၅-မိနစ် ရောက်အောင်အထိ တိုးမြှင့်အားထုတ်ပါ။ နေ့စဉ်ပုံမှန် အားထုတ်ဖြစ်တဲ့ ရက်သတ္တပါတ် အနည်းငယ်အကြာမှာပဲ စူးစိုက်အားကောင်းလာတာ စတင်၊ တွေ့မြင်ရပါလိမ့်မယ်။ အတွေးပျံ့လွင့်မှုတွေ နည်းသည်ထက် နည်းလာပြီး တကယ့် အေးချမ်းငြိမ်သက်မှု သမာဓိ ရနိုင်ပါတယ်။

မေး။ ။ မေတ္တာဘာဝနာ ပွားတယ်ဆိုတာကကော ဘယ်လိုပါလဲ။ ဘယ်လိုများ လက်တွေ့ ကျင့်ဆောင်ရပါသေးသလဲ။

ဖြေ။ ။ အာနာပါနသတိ ကမ္မဋ္ဌာန်းနှင့် အသားကျပြီးတော့ အဲဒီ အာနာပါနသတိကိုပဲ ပုံမှန်အားဖြင့် ဆက်လက် ပွားများ၊ အားထုတ်နေပြီဆိုရင် မေတ္တာဘာဝနာကိုလည်း စတင်အားထုတ်လို့ ရပါပြီ။ အာနာပါနသတိ အားထုတ်လို့ ပြီးဆုံးတဲ့အခါတိုင်း မေတ္တာဘာဝနာကို တစ်ပါတ် နှစ်ကြိမ်၊ သုံးကြိမ်ခန့်စီ အားထုတ်သင့်ပါတယ်။ ပထမအနေနှင့် မိမိကိုယ်ကို မိမိ အာရုံပြုပြီးတော့ အခုလို မေတ္တာပွားသင့်ပါတယ်။ ငါဟာ ကျန်းမာပျော်ရွှင်ပါစေ၊ ငြိမ်းအေးချမ်းသာပါစေ၊ အန္တရာယ်ကင်းပါစေ၊ ငါ့နှလုံးသား၌ အမုန်းတရားကင်းပြီး မေတ္တာတရားဖြင့် ရှမ်းစို၊ ပြည့်ဖြိုးပါစေဆိုတဲ့ စကားမျိုးကို ကိုယ့်ဟာကိုယ် စိတ်နှင့် ရွတ်ဆိုပြီးတော့ ပွားများရပါတယ်။ အဲဒီနောက်မှာတော့

– ကိုယ်က ချစ်နှစ်လိုလားအပ်တဲ့ (ပိယ) ပုဂ္ဂိုလ်၊

– မချစ် မမုန်း၊ မရင်းနှီးတဲ့ (မဇ္ဈ) ပုဂ္ဂိုလ်၊

– ကိုယ်နှင့် အမုန်းပွားနေတဲ့ ရန်သူ (ဝေရီ) ပုဂ္ဂိုလ်တွေကို တစ်မျိုးပြီး၊ တစ်မျိုး အစဉ်အတိုင်း တစ်ဦးချင်းစီ အထက်ကဆိုခဲ့တဲ့ မေတ္တာပွားများနည်းအတိုင်း မိမိကိုယ်နှင့် ထပ်တူ ပွားများရပါတယ်။

မေး။ ။ ဒီလို မေတ္တာဘာဝနာ ပွားများခြင်းဖြင့် ဘယ်လိုမျိုး အကျိုးကျေးဇူးတွေ ရရှိနိုင်ပါ သေးသလဲ။

ဖြေ။ ။ မေတ္တာဘာဝနာကို မှန်ကန်တဲ့ စိတ်ထားနှင့် ပုံမှန်သာ ပွားများမယ်ဆိုရင် သိပ်ပြီးတော့ အပြုသဘောဆောင်တဲ့ အလားအလာကောင်းတွေကိုတွေ့မြင်ရမှာ ဖြစ်ပါတယ်။ (ပထမအနေနှင့်) မိမိဟာ များစွာ ချစ်ခင်၊ နှစ်လိုဖွယ်ကောင်းသူ၊ အပြစ်ကင်းသူအဖြစ် ကိုယ့်ဟာကိုယ် ထင်မြင်လာမှာ ဖြစ်ပါတယ်။ ကိုယ်က ချစ်နှစ်လိုလားတဲ့ ပီယပုဂ္ဂိုလ်တွေအပေါ်မှာ ထားရှိတဲ့မေတ္တာဟာလည်း ပိုမိုပြီး မြင့်မားတိုးပွားလာတာကို မြင်တွေ့ရပါလိမ့်မယ်။ အမြင်သဘောထားချင်း မတိုက်ဆိုင်သူတွေနှင့်ရော၊ ကိုယ်နှင့် မပတ်သက်တဲ့ ဘာသိဘာသာနေသူတွေနှင့်ပါ ရင်းနှီး၊ ခင်မင်လာပြီးတော့ မိတ်ဆွေဖြစ်လာတာကိုလည်း ကိုယ်တွေ့ကြုံရမှာဖြစ်ပါတယ်။ တစ်ချို့ပုဂ္ဂိုလ်တွေအပေါ်မှာ ကိုယ်ကထားရှိခဲ့တဲ့ မကောင်းစိတ်၊ မကောင်းကြံတွေ ဒါမှမဟုတ် မခံချင်စိတ်တွေဟာလည်း လျော့ပါးသွားပြီးတော့ နောက်ဆုံး အဲဒီလို စိတ်မျိုးတွေ လုံးဝ ပျောက်ကွယ်သွားတာကို တွေ့နိုင်ပါတယ်။ မေတ္တာပွားများတဲ့အခါ ကိုယ်သိထားတဲ့ နေထိုင်မကောင်းသူ၊ မပျော်မရွှင်နိုင် ဖြစ်နေတဲ့သူ၊ အခက်အခဲ ရင်ဆိုင်နေရသူတွေကိုလည်း ထည့်သွင်းပွားများလို့ ရနိုင်ပါသေးတယ်။ ပြီးတော့ သက်ဆိုင်ရာပုဂ္ဂိုလ်တွေရဲ့ အခြေအနေတွေ သိသိသာသာ တိုးတက်ကောင်းမွန်လာတာကိုလည်း အကြိမ်ကြိမ် တွေ့ရဦးမှာပဲ ဖြစ်ပါတယ်။

မေး။ ။ ဒါက ဘယ်လို ဖြစ်နိုင်ဖွယ် ရှိပါသလဲ။

ဖြေ။ ။ ထိုက်ထိုက်တန်တန် တိုးတက်ကောင်းမွန်လာတဲ့အခါ စိတ်ဟာ သိပ် အားကောင်း၊ ထက်မြက်တဲ့ လက်နက်ကိရိယာတစ်ခု ဖြစ်သွားပါတယ်။ မိမိရဲ့ စိတ်စွမ်းအင်ကို သတိမူ၊ လေ့လာပြီး တစ်ခြားပုဂ္ဂိုလ်တွေဆီ ပို့လွှတ်နိုင်မယ်ဆိုရင် စိတ်ရဲ့ စွမ်းအားဟာ အဲဒီ ပုဂ္ဂိုလ်တွေအပေါ် အကျိုးသက်ရောက်မှု ရှိနိုင်ပါတယ်။ ဒီလိုမျိုး ကိုယ်တွေ့ဖြစ်ရပ်တွေတောင် ကြုံကောင်း၊ ကြုံဖူးကြမှာပါ။ လူတွေ ပြည့်ကျပ်နေတဲ့ အခန်းတစ်ခုထဲရောက်နေတုန်း တစ်စုံတစ်ယောက်က ကိုယ့်ကို ကြည့်နေတယ်လို့ အထင်ရောက်လာတယ်ဆိုပါတော့၊ လှည့်ပတ်သိုင်းဝိုင်း၊ ကြည့်လိုက်တော့မှ သေချာသွားတယ်။ ဟုတ်ပါရဲ့၊ တစ်စုံတစ်ယောက်က ကိုယ့်ကို စ, နေတာပဲ။ ဒါဟာ တစ်ခြားပုဂ္ဂိုလ်တစ်ဦးရဲ့ စိတ်စွမ်းအင်ကို ကိုယ်က ဘယ်လို လက်ခံ၊ ထိသိလို့ ရနိုင်တယ်ဆိုတဲ့ သဘောဖြစ်ပါတယ်။ မေတ္တာဘာဝနာပွားများတယ်ဆိုတာလည်း ဒီအတိုင်းပါပဲ။ တစ်ခြားပုဂ္ဂိုလ်တွေအပေါ် ထားရှိအပ်တဲ့ အပြုသဘောစိတ်တွေကို မွေးမြူတယ်၊ ပြီးတော့ ဒါကို ကိုယ်က မေတ္တာပွားမည့်သူတွေဆီ တဖြည်းဖြည်းချင်း ပို့လွှတ်တယ်၊ ဒါပါပဲ။

မေး။ ။ တရားအားထုတ်တတ်အောင် သင်ပြပေးမည့် ဆရာဆိုတာကော လိုအပ် ပါသလား။

ဖြေ။ ။ ဆရာရယ်လို့ သတ်သတ်မှတ်မှတ် လိုအပ်တာတော့ဖြင့် မဟုတ်ပါဘူး။ တရားအားထုတ်မှုနှင့် ရင်းနှီးကျွမ်းဝင်ပြီးသား ပုဂ္ဂိုလ်တွေဆီက အနီးကပ်သင် ပြပေးမှုကို ရယူတာကတော့ ပိုကောင်းတာပေါ့။ တစ်ခုဆိုးတာက ကိုယ်ဘာလုပ်နေလို့ လုပ်နေမှန်းတောင် မသိတဲ့ ရဟန်းပုဂ္ဂိုလ်၊ လူ ပုဂ္ဂိုလ်တချို့က သူတို့ကိုယ် သူတို့ ကမ္ဘာ့ နာစရိယအဖြစ် ခံယူနေကြတာတွေ တွေ့ရှိနေတာပါပဲ။ ဒါကြောင့် နာမည်၊ ဂုဏ်သတင်း ကောင်းပြီး မှုမှုတတ သုံးသပ်၊ ဆုံးဖြတ်တတ်တဲ့ ဆရာမျိုး၊ ဗုဒ္ဓစာပေအရာမှာလည်း ကျွမ်း ကျွမ်း၊ ကျင်ကျင်ရှိလှတဲ့ ပုဂ္ဂိုလ်မျိုးကို ရွေးဖြစ်အောင် ကြိုးစားဖို့ပါပဲ။

မေး။ ။ စိတ်ရောဂါကု ဆရာဝန်တွေ၊ စိတ်ပညာရှင်တွေကတောင် တရားအားထုတ် မှုကို ကျယ်ကျယ်ပြန့်ပြန့် အသုံးချနေကြပြီလို့ ကြားရပါတယ်။ ဒါကော ဟုတ် ပါသလား။

ဖြေ။ ။ ဟုတ်ပါတယ်။ အခုအခါ တရားအားထုတ်မှုကို ထိရောက်တဲ့ စိတ်ကုထုံး တစ် ရပ်အဖြစ် လက်ခံလာကြပါပြီ။ အကြောပြေလျော့ပြီး နားနားနေနေ သက် တောင့်၊ သက်သာဖြစ်စေဖို့၊ ကြောက်စွဲရောဂါ[၁]တွေကို ပယ်ဖျောက်ဖို့၊ ကိုယ့်ရဲ့အ သိစိတ်ကို ပြန်ပြီးတော့ ဆောက်တည်ဖို့ရန် (လိုအပ်တဲ့) ကိစ္စတွေမှာ ကျန်းမာရေးလုပ် သား (စိတ်ကုဆရာဝန်) များစွာတို့ဟာ တရားအားထုတ်စေပြီး ကုတဲ့နည်းကို အသုံးပြု နေကြပါပြီ။ လူသားရဲ့ စိတ်ဓါတ်ပိုင်းရေးရာမှာ ဗုဒ္ဓရဲ့ ဉာဏ်အမြော်၊ အမြင်တော်ဟာ ဟိုးရှေးရှေးခေတ်တွေက အကျိုးဆောင်တော်မူခဲ့သလိုပဲ အခုခေတ်မှာလည်း အကျိုးပြု ပေးနေတုန်းပါပဲ။

---

၁။ **Phobias**- တစ်စုံတစ်ရာကို စွဲလမ်းပြီး အလွန်အမင်း ကြောက်တတ်၊မုန်းတတ်သည့် စိတ်ရောဂါများ။ ဥပမာ--**Hydrophobia**=(ရေကြောက်တတ်သည့် ခွေးရူးပြန်ရောဂါ)

## ကရုဏာ နှင့်ပညာ

မေး။ ။ ကရုဏာနှင့် ပတ်သက်တဲ့ အကြောင်းအရာတွေ၊ ပညာနှင့်သက်ဆိုင်တဲ့ အချက်အလက်တွေကို ဗုဒ္ဓဘာသာဝင်တွေဆီက မကြာခဏဆိုသလို ကြားရပါတယ်။ ဒီ ဝေါဟာရ နှစ်လုံးရဲ့ အဓိပ္ပါယ်က ဘာပါလဲ။

ဖြေ။ ။ တစ်ချို့သော ဘာသာရေးတရားတွေက သနား၊ ကြင်နာတတ်ခြင်း ကရုဏာနှင့် အကျိုးလိုခင်မင်မှု မေတ္တာကို (သိပ်အသွင်တူပြီး) သိပ်အရေးပါတဲ့ စိတ်ပိုင်းဆိုင်ရာ အရည်အသွေးတွေအဖြစ် လက်ခံ၊ ယူဆထားကြပါရဲ့။ ဒါပေမဲ့ ဆင်ခြင်တွေးခေါ် သိနားလည်မှုဆိုတဲ့ ပညာတိုးတက်အောင်တော့ လမ်းဖွင့် မပေးကြပါဘူး။ အကျိုးသက်ရောက်မှုကတော့ သိပ်သနား၊ ညှာတာတတ်သူ တစ်ဦးအနေနှင့် သူဟာ သိပ်စိတ်ထားကောင်းပေမဲ့ ရိုးအ,သူ၊ ပညာနည်းသူ၊ ဒါမှမဟုတ် အသိဉာဏ်ကင်းမဲ့သူအဖြစ်နှင့် စခန်းသိမ်းရတာပါပဲ။ သိပ္ပံပညာလို တစ်ခြားသော တွေးခေါ်၊ မြော်မြင်မှုဆိုင်ရာ စံနစ်တွေကတော့ ကရုဏာအပါအဝင် အားလုံးသော စိတ်ရဲ့ အပြုအမူ (စေတသိက်) တွေကို ထိန်းချုပ်ထားတဲ့ အခြေအနေမျိုးမှာမှပဲ ပညာကို အကောင်းဆုံးအဆင့် တိုးတက်အောင် လုပ်နိုင်မယ်လို့ ယုံကြည်ကြပါတယ်။ ဒီအယူအဆကြောင့် ဖြစ်ပေါ်လာရတဲ့ အကျိုးဆက်ကတော့ သိပ္ပံပညာဟာ အကျိုးပြုမှုတွေနှင့်အတူ ထိုးဖောက်ဝင်ရောက်၊ နေရာယူလာတယ်။ အဲဒီ အခါမှာ သိပ္ပံဆိုတာ လူသားအကျိုးကို ဆောင်ရန်အတွက်သာ ဖြစ်တယ်၊ လူကို ထိန်းချုပ်၊ ခြယ်လှယ်ဖို့ မဟုတ်ဘူးဆိုတာကိုတောင် မေ့သွားကြတယ်။ အနုမြူဗုံးနှင့် စစ်မက်ရေးရာစတာတွေ တိုးတက်ဖြစ်ထွန်းလာအောင် သိပ္ပံကဝိတွေက သူတို့ရဲ့ စွမ်းအားတွေကို ဘယ်လောက်အထိ အားသစ်လောင်းနိုင်ကြဦးမှာပါလိမ့်။ (အထက်ကဆိုခဲ့တဲ့) ဘာသာရေးတွေက ကြောင်းကျိုးဆင်ခြင်မှုနှင့် တတ်သိနားလည်မှုတွေကို မေတ္တာနှင့်၊ ယုံကြည်မှုလို တရားတွေရဲ့အန္တရာယ်တွေအဖြစ် ရှုမြင်ကြပါတယ်။ (သူတို့အတွက်တော့ မေတ္တာနှင့်၊ ယုံကြည်မှု သဒ္ဓါကသာ အဓိကကျပြီး ပညာက ဒီလောက် အရေးမပါဘူး)။ သိပ္ပံပညာ ရှုထောင့်က ကြည့်ရင်တော့ ဒီမေတ္တာနှင့် ယုံကြည်မှုဆိုတာတွေဟာ ကြောင်းကျိုးဆင် ခြင်တတ်မှုနှင့် ဓမ္မဒိဋ္ဌာန်ကျမှုအတွက် အဟန့်အတားတွေပဲလို့ မြင်ကြပါတယ်[၁]။ ဒါကြောင့်လည်း သိပ္ပံပညာဖက်က တိုးတက်လာတာနှင့်အမျှ ဘာသာရေးဖက်မှာတော့

---

၁။ ဘာသာရေးနှင့် သိပ္ပံပညာတို့ရဲ့ အစွန်းတစ်ဖက်စီ ရောက်နေကြပုံ ဖြစ်ပါတယ်။

ချို့ယွင်း၊ ဆုတ်ယုတ်လာရတာ ဖြစ်ပါတယ်။ (အထက်ကဆိုခဲ့တဲ့ ဘာသာရေးတွေနှင့် မတူညီတဲ့) ဗုဒ္ဓဘာသာအနေနှင့်ကတော့ ကရုဏာရော၊ ပညာပါ တိုးတက်ရမယ်၊ အကြွင်းမဲ့ မျှမျှတတရှိပြီး၊ ပြီးပြည့်စုံတဲ့ သူမျိုးဖြစ်ရမယ်လို့ သွန်သင်ပေးပါတယ်။ အယူအဆသက်သက်ကြောင့်ချည်းမဟုတ်ဘဲ ဘဝအတွေ့အကြုံအပေါ်မှာ အခြေခံတာကြောင့်လည်း ဗုဒ္ဓဘာသာဟာ သိပ္ပံပညာရဲ့ စောကြော၊ ဝေဖန်မှုနှင့် စမ်းသပ်၊ စစ်ဆေးမှုတွေကို စိန်ခေါ်ရဲတဲ့ ဘာသာပဲ ဖြစ်ပါတယ်။

မေး။ ။ ဗုဒ္ဓဘာသာတရားတော်အရ ပညာဆိုတာကကော ဘယ်လိုပါလဲ။

ဖြေ။ ။ အမြင့်မားဆုံးပညာဆိုတာ အားလုံးသော သင်္ခါရတရားတွေဟာ စစ်စစ် အားဖြင့် မပြည့်စုံမှု (ဒုက္ခ)၊ အခိုက်အတန့်မျှသာဖြစ်ပြီး မခိုင်မြဲတဲ့ (အနိစ္စ)၊ အစိုးရတာမဟုတ်တဲ့ (အနတ္တ) သဘောတွေမျှသာ ဖြစ်တယ်လို့ ရှုမြင်တာဖြစ်ပါတယ်။ ဒီလိုနားလည်သဘောပေါက်၊ ရှုမြင်တာဟာ အကြွင်းမဲ့ လွတ်လပ်မှုပဲ ဖြစ်ပြီးတော့ နိဗ္ဗာန်လို့ ခေါ်ဆိုရတဲ့ တကယ့်လုံခြုံစိတ်ချရမှု၊ တကယ့်ပျော်ရွှင်ချမ်းသာမှုဆီကို ဦးတည်နေတာပဲ ဖြစ်ပါတယ်။ ဒါပေမဲ့ ဗုဒ္ဓကိုယ်တော်တိုင်က ဒီ အမြင့်ဆုံးပညာအဆင့်နှင့် စပ်လျဉ်းပြီး ဒီ၁ ပ်များများစားစား ဟောမြွက်တော်မမူခဲ့ပါဘူး[၁]။ သူများတွေ ပြောတဲ့အတိုင်း လွယ်လွယ်ကလေးနှင့် ယုံကြည်တယ်ဆိုရင်လည်း ဒါဟာ တကယ့် ပညာစစ်စစ် မဟုတ်သေးပါဘူး။ စစ်မှန်တဲ့ ပညာဆိုတာက မိမိ ကိုယ်ကို မိမိ တိုက်ရိုက်သိမြင်နားလည်တာပဲ ဖြစ်ပါတယ်။ အဲဒီ အဆင့်မှာတော့ ပညာဟာ ကျဉ်းမြောင်းမှုမရှိဘဲ ပွင့်လင်းမှုရှိလာတယ်၊ တယူသန်ဆုံးဖြတ်တာထက် ပတ်ဝန်းကျင်က အမြင်တွေကို ထည့်သွင်း၊ ဆုံးဖြတ်တာမျိုး ဖြစ်လာတယ်၊ ကိုယ့်အထင်အမြင် ကျဉ်းကျဉ်းကလေးကို ဖက်တွယ်ဆုတ်ကိုင်နေရတာထက် ကိုယ်အမြင်နှင့် မကိုက်ညီတဲ့ ဖြစ်စဉ်၊ ဖြစ်ရပ်တွေကိုလည်း သတိပြုစိစစ်၊ သုံးသပ်တတ်လာတယ်။ အပေါ်ယံအမြင်နှင့် တင်ကူးဆုံးဖြတ်တာ၊ ဘက်လိုက်တာမျိုးတွေထက် ပိုပြီး မေ့မိဒွန်ကျကျ ရှုမြင်တတ်လာတယ်။ ပထမဆုံး အကြိမ်အဖြစ် ကြုံရတဲ့ ဒါမှမဟုတ် စိတ်လှုပ်ရှားဖွယ် အကောင်းဆုံးအရာတွေကို (မစဉ်းမစား) လက်ခံတာမျိုးတွေထက် အချိန်ယူ သုံးသပ်ပြီးတော့မှ အမြင်တွေ၊ ယုံကြည်ချက်တွေကို တည်ဆောက်တတ်လာတယ်။ ကိုယ့်အယူအဆနှင့် တကယ့်ဖြစ်ရပ်က တခြားစီ၊ မကိုက်ညီကြောင်း သိလာရတဲ့ ဘယ်အခြေအနေမျိုးမှာမဆို

---

၁။ ဤ၌ ပညာအပြားသုံးပါး ရှိ၏။ ၁၊ သုတမယပညာ–သုတပါဠိထံမှ ကြားမြင်သင်ယူခြင်းဖြင့် ရသော ပညာ။ ၂၊ စိန္တာမယပညာ–မိမိကိုယ်တိုင် ကြံစည်တွေးခေါ်၍ ရသောပညာ။ ၃၊ ဘာဝနာမယ ပညာ–ဘာဝနာပွားများမှုဖြင့်သာ ထိုးထွင်းသိမြင်၍ ရနိုင်သောပညာ။ ပဟာပြောပြသရုံ သက်သက်ဖြင့် မရနိုင် ကိုယ်တိုင်စိုက်ထုတ် ကျင့်ကြံဖြင့် သဘောပေါက်မြောက်သိမြင်နိုင်သော အရာဖြစ်၍ ဤအမြင့်ဆုံး ဘာဝနာမယပညာအတွက် တိုက်ရိုက်–နီတတ္ထနည်းအားဖြင့် များစွာ ဟောတော်မမူခြင်း ဖြစ်သည်။

ကိုယ့်အယူအဆကို စွန့်လွှတ်ဖို့ အသင့်ရှိလာတယ်။ ပြုနိုင်ခဲ့တဲ့ အခုလို ဆုံးဖြတ်မှုတွေကို ပြုနိုင်စွမ်းရှိတဲ့ ပုဂ္ဂိုလ်ကသာ တကယ့်ပညာရှိသူဖြစ်ပြီး၊ အမှန်တရား (သစ္စာ) ကို နားလည်တဲ့အဆင့်ကို စင်စစ် ပေါက်မြောက်ရောက်ရှိသူလည်း ဖြစ်ပါတယ်။ ပြောတဲ့အတိုင်း လိုက်နာရတဲ့ ယုံကြည်မှု သက်သက် နည်းလမ်းက ဘာမှခက်ခက်ခဲခဲ မရှိပါဘူး။ ဗုဒ္ဓရဲ့ မဂ္ဂင်လမ်းစဉ်မှာတော့ ပြတ်သားရဲတဲ့ – သတ္တိ၊ ထိန်းသိမ်း၊ အောင့်အည်း၊ သည်းညည်း ခံနိုင်ရည်ရှိမှု –ခန္တီ၊ ပြုလွယ်၊ ပြင်လွယ်မှု –မုဒုနှင့်၊ အဆင့်မြင့်တဲ့ အသိဉာဏ်–ပညာတွေရှိဖို့ လိုအပ်လှပါတယ်။

မေး။ ။ ဒီအဆင့် ရောက်နိုင်တဲ့သူက မရှိသလောက် နည်းပါးလိမ့်မယ်လို့ ထင်ပါတယ်။ လူအနည်းငယ်မျှသာ ကျင့်သုံးလို့ရတဲ့ ဘာသာဆိုရင် ဗုဒ္ဓဘာသာရဲ့ ဦးတည်ချက်က ဘယ်လိုပါလဲ။

ဖြေ။ ။ ဟုတ်ပါတယ်။ လူတွေအားလုံးကတော့ဖြင့် ဗုဒ္ဓဝါဒကို ကျင့်သုံးဖို့ အခုထိ အဆင်သင့် မဖြစ်ကြသေးပါဘူး။ ဒါကြောင့် လူတွေအားလုံး လိုက်နာကျင့်သုံးနိုင်အောင်၊ ခပ်လွယ်လွယ်ကလေးနှင့် နားလည်နိုင်ရင် ပြီးရောဆိုပြီး အမှန်တရားအပေါ် အခြေမခံတဲ့ ဘာသာရေးမျိုးကိုသာ သင်ကြားပို့ချ ပေးသင့်တယ်ဆိုရင်တော့ အဲဒါဟာ သိပ်ရယ်စရာကောင်းမှာပါပဲ။ ဗုဒ္ဓဝါဒရဲ့ ဦးတည်ချက်က သစ္စာသိတဲ့အဆင့်ထိ ပေါက်မြောက်ဖို့ပါပဲ။ ဒါပေမဲ့ ဒီဘဝ၊ ဒီကိုယ်ရဲ့အဖြစ်နှင့် အဲဒီအဆင့်ထိ မပေါက်ရောက်နိုင်သေးရင်တောင်မှပဲ လာမည့်ဘဝတစ်ခုခုမှာ ပေါက်မြောက်သိမြင်နိုင်ဖို့အတွက် အဆင်သင့်ဖြစ်သွားနိုင်ပါတယ်။ သင့်တော်တဲ့ လမ်းညွှန်မှုတွေကို ရယူနိုင်လို့ မိမိရဲ့ အသိဉာဏ် အဆင့်အတန်းကို မြှင့်တင်နိုင်သူတွေဟာလည်း အများအပြားပါပဲ။ ဗုဒ္ဓဝါဒီတွေဟာ တခြားပုဂ္ဂိုလ်တွေနှင့် တရင်းတနှီး ငြိမ်းငြိမ်းချမ်းချမ်း ဓမ္မရေးရာတွေကို သူ့အမြင်ကိုယ့်အမြင် ညှိနှိုင်း၊ နှီးနှော လေ့ရှိကြတာဟာ အဲဒီ အတွက်ကြောင့်ပါပဲ။ ဗုဒ္ဓက မဟာကရုဏာတော်နှင့်ယှဉ်ပြီး သတ္တဝါဝေနေယျတွေကို သွန်သင်ပေးတော်မူခဲ့တာပါ။ (မြတ်ဗုဒ္ဓကျင့်ထုံး နှလုံးမူကြတဲ့) ဗုဒ္ဓဝါဒီတွေကလည်း ကရုဏာတရားနှင့်ပဲ ဓမ္မကိုလက်ဆင့်ကမ်း ဖြန့်ချီလာကြတာ ဖြစ်ပါတယ်။

မေး။ ။ ဒါဆို ကရုဏာပွားများပုံ အကြောင်းဆီ ရောက်ပါပြီ။ ဗုဒ္ဓဒေသနာတော် အလိုကျ ကရုဏာတရားဆိုတာကကော ဘယ်လိုပါလဲ။

ဖြေ။ ။ လူ့စရိုက်ရဲ့ အသိဉာဏ်ပိုင်းဆိုင်ရာမှာ ပညာပြဋ္ဌာန်းသလိုပဲ ခံစားမှုပိုင်းဆိုင်ရာမှာတော့ ကရုဏာက ပြဋ္ဌာန်းပါတယ်။ ကရုဏာဟာ ပညာလိုပဲလိုလားအပ်တဲ့ လူ့ အရည်အသွေးတစ်ရပ် ဖြစ်ပါတယ်။ ကရုဏာ (Compassion) ဆိုတဲ့ ဝေါဟာရကို Co + Passion ဆိုတဲ့ ဝေါဟာရနှစ်လုံးနှင့် ပေါင်းစပ်ထားတာပါ။ Co –

အတူတကွ + Passion – ပြင်းပြတဲ့ ခံစားမှုလို့ အဓိပ္ပါယ်ရပြီ Compassion – သူတစ်ပါး၏ ဒုက္ခကို မိမိဒုက္ခနှင့်မခြား တစ်သဘောတည်းထား၊ ခံစားခြင်း = ကရုဏာ[၁] ဖြစ်လာပါတယ်။ တစ်စုံတစ်ယောက် ဒုက္ခရောက်နေတာကို တွေ့ရတဲ့အခါ သူ့နေရာမှာ ကိုယ်သာဆိုရင် ဘယ်လောက်ခံစားရမှာလဲဆိုတဲ့ ကိုယ်ချင်းစာစိတ်နှင့် အဲဒီ ဝေဒနာကို ဖြေဖျောက်ပေးဖို့ ဒါမှမဟုတ် လျော့ပါးသွားစေဖို့ အားထုတ်တယ်ဆိုရင် ဒါဟာ ကရုဏာပါပဲ။ ဒီတော့ ဗုဒ္ဓဘုရားရှင်မှာရှိတဲ့ အရည်အသွေးတွေလိုပဲ မိမိ၏ အကျိုးကို မျှဝေပေးမှု၊ တစ်ပါးသူတွေကို အားပေးနှစ်သိမ့်မှု၊ ကိုယ်ချင်းစာမှု၊ ကြောင့်ကြစိုက်ပြီး စောင့်ရှောက်တတ်မှုစတဲ့ ကောင်းမြတ်တဲ့ လူ့အရည်အသွေးတွေဟာ ကရုဏာစေတသိက်ရဲ့ အင်္ဂါရပ်တွေပဲ ဖြစ်ကြပါတယ်။ ကရုဏာတရားလက်ကိုင်ထားသူ တစ်ဦးအနေနှင့် တခြားသူတွေကို အရေးတယူပြုပြီး ချစ်ခင်တာဟာ သူ့ကိုယ်သူ အလေးထားပြီး ချစ်ခင်တတ်တာကနေ စတင်တယ်လို့ မှတ်ယူနိုင်ပါတယ်။ ကိုယ့်ဟာကိုယ် တကယ် နားလည်သဘောပေါက်ခဲ့လို့ရှိရင် တစ်ခြားသူတွေကိုလည်း တကယ် စာနာနားလည်နိုင်မှာပါ။ မိမိအတွက် ဘယ်အရာဟာ အကောင်းဆုံးဖြစ်သလဲဆိုတာကို သိရှိခဲ့လို့ရှိရင် တစ်ခြားသူတွေအတွက်လည်း ဘာအကောင်းဆုံးဖြစ်မယ်ဆိုတာကို သိရှိနိုင်မှာ ဖြစ်ပါတယ်။ ကိုယ့်အတွက် ခံစားသလိုပဲ သူများအတွက်လည်း စာနာ၊ ခံစားနိုင်ပါတယ်။ ဒါကြောင့် ဗုဒ္ဓဝါဒအရ တစ်စုံတစ်ယောက်ရဲ့ စိတ်ပိုင်းဆိုင်ရာတိုးတက် ကောင်းမွန်ရေးဟာ တစ်ခြားသူတွေရဲ့ သာမှု၊ နာမှုကို ရှုဝံ့တတ်မှုနှင့် ဆက်စပ်ဖြစ်ပေါ်တတ်တာမျိုး ဖြစ်တယ်လို့ ဆိုပါတယ်။ ဗုဒ္ဓရဲ့ အခုဘဝဖြစ်စဉ် (ဗုဒ္ဓဝင်) ကို ကြည့်ရင်ပဲ ဒီအချက်ဟာ ပေါ်လွင်လှပါတယ်။ ဗုဒ္ဓဟာ သူ့ကိုယ်ကျိုး (ဗုဒ္ဓတ္တစရိယ) အတွက် ခြောက်နှစ်ကြာကြာ ကြိုးစား၊ ကျင့်ဆောင်တော်မူခဲ့ပြီး၊ ဘုရားအဖြစ်ရောက်တော်မူပြီးတဲ့နောက် ဘဝတစ်လျှောက်လုံးကာလမှာတော့ လူသားလောက တစ်ခုလုံးရဲ့ အကျိုးသက်သက်အတွက်ပဲ ရွမ်းဆောင်ပေးတော်မူခဲ့တာ ဖြစ်ပါတယ်။

မေး။ ။ ကိုယ့်အကျိုး လုပ်ဆောင်လို့ပြီးတော့မှပဲ သူများအကျိုးကို အကောင်းဆုံးဖြစ်အောင် ဆောင်ရွက်ပေးနိုင်မယ်ဆိုခဲ့ရင် ဒါဟာ တစ်ကိုယ်ကောင်းဆန်ရာ မရောက်ပေဘူးလား။

---

၁။ ပရဒုက္ခေ သတိ သာဓူနံ မနံ အတ္တနာဝိယ ကိရိယတီတိ ကရုဏာ (သူ တော်ကောင်းတို့၏ နှလုံးသားသည် သူတစ်ပါးဒုက္ခကို ကိုယ့်ဒုက္ခနှင့်မခြား ခံစားစေတတ်သည့်အတွက်ကြောင့် ကရုဏာ ဟုခေါ်သည်။)

ဖြေ။ ။ အများအကျိုးဆောင်မှုဆိုတာနှင့် တစ်ကိုယ်ကောင်းဆန်မှုဆိုတာကို တစ်ခုနှင့်တစ်ခုဟာ ဆန့်ကျင်ဘက်ဖြစ်တယ်လို့ချည်း ရှုမြင်တတ်ကြပါတယ်။ ဒီကိစ္စမှာ ဗုဒ္ဓဝါဒကတော့ မိမိရယ်၊ သူတစ်ပါးရယ်ဆိုပြီး တကွဲ၊ တပြားစီအနေနှင့် ရှုမြင်မနေဘဲ တစ်သားတည်း (တပြေးအညီ) အဖြစ် သဘောထားပါတယ်။ သူတပါးကို မိမိနှင့်ထပ်တူ တစ်တန်းတည်း တစ်သဘောတည်းထားနိုင်လို့ရှိရင် ကိုယ့်ကျိုး၊ ကိုယ့်စီးပွားကို တကယ်တမ်း ဆောင်ရွက်တယ်ဆိုတာဟာ တစ်ခြားသူတွေရဲ့ အကျိုးစီးပွားကို ဆောင်ရွက်ရာလည်း ရောက်တာပါပဲ။ ဒါကမှ ကရုဏာစစ်၊ ကရုဏာမှန်ဖြစ်ပြီး ဗုဒ္ဓဒေသနာတော်ဆိုတဲ့ မကိုင်ရသရုပ်ပေါ်မှာ ကရုဏာတရားဟာ အလှပဆုံးသော ကျောက်မျက်တစ်ပွင့်ပဲဖြစ်ပါတယ်။

## သက်သတ်လွတ်

မေး။ ။ ဗုဒ္ဓဘာသာဝင်တစ်ဦးဟာ သက်သတ်လွတ် စားသင့်တယ် မဟုတ်ပါလား။

ဖြေ။ ။ သက်သတ်လွတ်ဆိုတာ မလိုအပ်လှပါဘူး။ ဗုဒ္ဓကိုယ်တော်တိုင်က သက်သတ်လွတ်သုံးခဲ့တာ မဟုတ်သလို သူ့တပည့်သားတွေကိုလည်း သက်သတ်လွတ်သမားတွေဖြစ်ကြဖို့ ဟောညွှန်တော်မမူခဲ့ပါဘူး။ အခုအခါမှာ ဗုဒ္ဓဘာသာဝင်ကောင်းပီသတဲ့ သက်သတ်မလွတ်သူတွေ မနည်းလှပါဘူး။

မေး။ ။ အသား၊ ငါးစားတယ်ဆိုရင် သတ္တဝါတစ်ဦး သေဆုံးရမှုအတွက် စားသုံးသူမှာ သွယ်ဝိုက်သောအားဖြင့် တာဝန်ရှိရာ ရောက်ပါတယ်။ ဒါဟာ ပါဏာတိပါတ ဆိုတဲ့ ပထမသိက္ခာပုဒ်ကို ချိုးဖောက်ရာကော မကျပေဘူးလား။

ဖြေ။ ။ ဟုတ်ပါတယ်။ အသားငါးစားသုံးသူဟာ အဲဒီ သားကောင်သေဆုံးရမှု အတွက် သွယ်ဝိုက်သောနည်းနှင့် တစ်စိတ်၊ တစ်ပိုင်းအားဖြင့် တာဝန်မကင်းပါဘူး။ ဒါပေမဲ့ သက်သတ်လွတ်စားရင်လည်း ဒီအတိုင်းပါပဲ။ သစ်သီး၊ သစ်ရွက်တွေမှာ အပေါက်၊ အပုံမပါဘဲနှင့်၊ ပန်းကန်ထဲ စိမ်းဖပ်လတ်ဆတ်စွာ ရောက်ရှိလာနိုင်အောင် စိုက်ပျိုးသူက စိုက်ခင်းတွေထဲ ပိုးသတ်ဆေးအဆိပ်ရည်တွေ ဖျန်းပေးရတယ်။ တစ်ခါ လူတွေ သုံးစွဲနေကြတဲ့ ခါးပတ်ကြိုးတို့၊ လက်ဆွဲအိတ်တို့ လုပ်ဖို့ သားရေတွေ၊ ဆပ်ပြာအဆီ ထုတ်လုပ်ရေးနှင့် တခြားထောင်ချီတဲ့ အလားတူ ထုတ်ကုန်ပြုလုပ်မှုတွေအတွက် တိရစ္ဆာန်တွေကို သတ်ဖြတ်ကြရတယ်။ တစ်နည်းမဟုတ် တစ်နည်း၊ တခြား သတ္တဝါတစ်ဦးဦး သေကြေရမှုနှင့် သွယ်ဝိုက်သောအားဖြင့် မဆက်စပ်ပဲနှင့်တော့ အသက်ရှင်၊ ရပ်တည်ဖို့ဆိုတာဟာ ဖြစ်ကို မဖြစ်နိုင်တဲ့ ကိစ္စပါပဲ။ ဒါဟာ ဒုက္ခသစ္စာရဲ့ သရုပ်သကန်တစ်ခုမျှသာ ဖြစ်ပါတယ်။ (လောကမှ မထွက်မြောက်နိုင်သေးသမျှ) လောကီဘဝဖြစ်စဉ်ဟာ သုခမဟုတ်၊ ဒုက္ခသက်သက်မျှသာ ဖြစ်ပါတယ်။ ငါးပါးသီလ ပထမသိက္ခာပုဒ်ကို ဆောက်တည်ရာမှာ သတ္တဝါတွေ သေဆုံးရမှုအတွက် ကိုယ့်အနေနှင့် တိုက်ရိုက် တာဝန်မရှိရလေအောင် ကြိုးစားစောင့်ထိန်းဖို့ပဲ လိုအပ်ပါတယ်။

မေး။ ။ မဟာယာန ဗုဒ္ဓဘာသာတွေကတော့ အသားမစားကြပါဘူး။

ဖြေ။ ။ဒါ မမှန်ကန်ပါဘူး။ တရုတ် မဟာယာန ဗုဒ္ဓဘာသာတွေက သက်သတ်လွတ်စားတာကို အထူးအလေးထားကြပေမဲ့ ဂျပန်နဲ့ တိဗက် မဟာယာနတွေက တော့ ဘုန်းကြီးရော တကာ၊ တကာမတွေပါ အသားစားကြပါတယ်။

မေး။ ။ဒါပေမဲ့ ဗုဒ္ဓဘာသာဝင် တစ်ဦးဆိုရင်တော့ (ဘာပဲဖြစ်ဖြစ်) သက်သတ်လွတ်စားသင့်တယ်လို့ ယူဆမိပါတယ်။

ဖြေ။ ။ပုဂ္ဂိုလ်နှစ်ဦး ရှိတယ်ဆိုပါတော့။ တစ်ဦးက တကယ့် တိတိကျကျ သက်သတ်လွတ်သမား။ ဒါပေမဲ့ သူဟာ တစ်ကိုယ်ကောင်းဆန်တယ်၊ လေးစားစရာဆိုလို့ ဘာမှလည်း မရှိဘူး၊ ကောက်ကျစ်ယုတ်မာတယ်၊ နောက်တစ်ဦးက သက်သတ်လွတ်သမား တော့ မဟုတ်ဘူး။ ဒါပေမဲ့ သူက တခြားသူတွေကို ညှာတာတတ်တယ်၊ လေးစားဖို့လည်း ကောင်းတယ်၊ မျှမျှ တတရှိပြီး ကြင်နာတတ်တယ်။ ကဲ ဒီလိုသာ ဆိုရင်ကော သူတို့နှစ်ဦး အနက် ဘယ်သူက ပိုပြီးတော့ ဗုဒ္ဓဘာသာဝင်ကောင်းတစ်ဦး ဖြစ်မှာပါလဲ။

အမေးပုဂ္ဂိုလ်။ ။(ဒီလိုသာဆိုရင်တော့) လေးစားလောက်တဲ့ ဂုဏ်ရှိသူ၊ သနားညှာတာတတ်သူက ပိုပြီးတော့ ဗုဒ္ဓဘာသာဝင်ကောင်း ပီသတာပေါ့။

အဖြေပုဂ္ဂိုလ်။ ။ဘာကြောင့်ပါလိမ့်။

အမေးပုဂ္ဂိုလ်။ ။ဒီလိုပုဂ္ဂိုလ်မျိုးက စိတ်ဓါတ်ရေးရာအရ မြင့်မားတယ်ဆိုတာ သိသာတဲ့ အတွက်ကြောင့်မို့ပေါ့။

အဖြေပုဂ္ဂိုလ်။ ။မှန်ပါတယ်။ အသားမစားတဲ့ပုဂ္ဂိုလ်ဟာ စိတ်ထားယုတ်ညံ့သူ ဖြစ်နိုင်သေးသလို၊ အသားစားပေမဲ့ စိတ်ထားဖြူစင်၊ မြင့်မြတ်သူလည်း ဖြစ်နိုင်ပါသေးတယ်။ ဗုဒ္ဓဒေသနာတော်အရ နှလုံးရည် သန့်စင်၊ မြင့်မားရေးကသာ အဓိကဖြစ်ပြီးတော့၊ ဘာစားတယ်၊ ဘာမစားဘူးဆိုတဲ့အချက်က အရေးမပါလှပါဘူး။ အသား လုံးဝ မစားရေးကို အလေးထားကြသလောက် တစ်ကိုယ်ကောင်းဆန်တာ၊ လေးစားလောက်တဲ့ ဂုဏ်ရယ်လို့ မရှိအောင်ကို ယုတ်ညံ့တာ၊ ရက်စက်တတ်တာ၊ မနာလို ဝန်တို ကျဉ်းမြောင်းတာတွေကျတော့ အာရုံမစိုက်ကြတဲ့ ဗုဒ္ဓဘာသာဝင်တွေလည်း အများအပြားပါပဲ။ တိုးတက်ကောင်းမွန်လာအောင် လုပ်ဖို့ရာ မလွယ်ကူလှတဲ့ နှလုံးသားတွေကို လျစ်လျူရှုထားကြပြီးတော့ ဘာမှခက်ခက်ခဲခဲ မရှိလှတဲ့ အစားအသောက်လေးကိုပဲ ရှမယ်ရှာနေကြတာသာ ဖြစ်ပါတယ်။ ဒါကြောင့် အသားစားသုံး သူပဲဖြစ်ဖြစ်၊ အသားရှောင်ကြဉ်သူပဲ ဖြစ်ဖြစ် ဗုဒ္ဓဝါဒအရဆိုရင်တော့ စိတ်ထားမြင့်မြတ်ရေးကသာ အဓိက အရေးအကြီးဆုံးလို့ မှတ်ယူသင့်ပါတယ်။

# ကံနှင့်ကြမ္မာ

မေး။ ။ မှော်အတတ်တို့၊ ဗေဒင်၊ ယတြာတို့နှင့် ပတ်သက်လို့ကတော့ ဗုဒ္ဓက ဘယ်လို မိန့်ကြားတော်မူခဲ့ပါသလဲ။

ဖြေ။ ။ ဗုဒ္ဓက ရှေးဖြစ် အတပ်ဟောခြင်း၊ အကာအကွယ် လက်ဖွဲ့ဆောင်ခြင်း၊ မြေကြီ (အဆောက်အအုံအတွက် နေရာရွေးပေး) ခြင်း၊ နိမိတ်ဖတ်ခြင်း၊ မင်္ဂလာရှိတဲ့ အချိန်အခါ ရွေးပေးခြင်းစတာတွေဟာ အယူသည်းမှု သက်သက်မျှသာ ဖြစ်တယ်လို့ သတ်မှတ်တော်မူပါတယ်။ သူ့ရဲ့ တပည့်သာဝကတွေကိုလည်း ဒီလို ကိစ္စမျိုးတွေကို အလေ့အလာ မပြုကြဖို့ အတိအလင်းပဲ တားမြစ်တော်မူခဲ့ပါတယ်။ ဗုဒ္ဓက ဒါတွေကို အတတ်ငယ် (Low Arts) တွေအဖြစ် ဟောတော်မူခဲ့ပါတယ်။

"ဤလောက၌ ဤမည်သော အတတ်ငယ်မျိုး (အောက်လမ်း) တို့ကို ဆောင်ရွက်ခြင်းဖြင့် အသက်မွေးမှု ပြုကြတဲ့ သမဏ၊ ဗြာဟ္မဏတွေလည်း ရှိကြတယ်။ မှားယွင်းတဲ့ အသက်မွေးမှုတွေဖြစ်တဲ့ အဲဒီ အတတ်ငယ်ဆိုတာတွေကတော့ လက္ခဏာအရေးအကြောင်းကို ကြည့်ပြီး ကံအဆိုး၊ အကောင်းကို ဟောခြင်း၊ နိမိတ်ကောက်ခြင်း၊ အိပ်မက်ဖတ်ခြင်း၊ ကံနိမ့်၊ ကံကောင်းအောင်ပြုပြင် (ယတြာချေ) ပေးခြင်း၊ ကံဇာတာနတ် သမီးဆီမှာ ဆုတောင်းပေးခြင်း၊ လာဘ်ခံတဲ့ မြေကွက် ရွေးပေးခြင်းစတာတွေပါပဲ။ ရဟန်းဂေါတမကတော့ ဒီလိုမျိုး အတတ်ငယ်တွေနှင့် မှားယွင်းစွာ အသက်မွေးခြင်းတွေကို ရှောင်ကြဉ်တော်မူတယ်။"[၁]

မေး။ ။ ဗုဒ္ဓက ဒီလောက်တိတိကျကျ ဟောထားပါလျက်နှင့် လူတွေက ဒါတွေကို ဘာ့ကြောင့် လိုက်စား၊ ယုံကြည်နေကြတာပါလိမ့်။

ဖြေ။ ။ ဒီလူတွေရဲ့ လောဘကြီးမှု၊ ကြောက်အားကြီးမှု၊ မသိ၊ တွေဝေမှုတို့ကြောင့်ပါပဲ။ ဗုဒ္ဓတရားတော်တွေကို နားလည်သဘောပေါက်လာတာနှင့် တစ်ပြိုင်နက်တည်း စက္ကူစ၊ သတ္တုစကလေးတွေ၊ ဂါထာမန္တန် အတိုအစကလေးတွေကို ယုံကြည်အားထားရတာနှင့်စာရင် မိမိရဲ့ ဖြူစင်တဲ့ နှလုံးသားက ပိုပြီးတော့တောင် အကာအကွယ်ပေး

---

၁။ ဒီဃနိကာယ၊ ပ-တွဲ ၉-၁၂

နိုင်သေးတယ်ဆိုတာ လိမ်ပတ်လည်သွားကြမှာပါ။ ဒီလို သဘောပေါက်သွားသူတွေဟာ အဲဒီဂါထာ၊ မန္တန်၊ ယတြာစတာတွေကို အားမကိုးကြတော့ပါဘူး။ ဗုဒ္ဓဒေသနာတော်တွေ အရတော့၊ ကိုယ်ကျင့်သီလရှိတာ၊ သနားညှာတာတတ်တာ၊ တတ်သိနားလည်တာ၊ သည်းခံတတ်တာ၊ ခွင့်လွှတ်တတ်တာ၊ ရက်ရောတတ်တာ၊ သစ္စာစောင့်သိတာစတဲ့ တခြားကောင်းမြတ်တဲ့ ဂုဏ်ရည်တွေရှိတာကပဲ လူကို အမှန်တကယ် အကာအကွယ်ပေးပြီးတော့ တကယ့် အလားအလာကောင်းတွေကို ဖန်တီးပေးနိုင်စွမ်းရှိတယ်လို့ ဆိုပါတယ်။

မေး။ ။ အဆောင်လက်ဖွဲ့တွေဟာ တကယ် စွမ်းတယ်၊ မစွမ်းဘူးဆိုတာ သိပါရစေ။

ဖြေ။ ။ အဆောင်လက်ဖွဲ့တွေ ရောင်းချပြီး အသက်မွေးနေတဲ့ ပုဂ္ဂိုလ်တစ်ဦးနှင့် အသိအကျွမ်း ဖြစ်ဖူးပါတယ်။ သူက သူ့လက်ဖွဲ့တွေဟာ ကံကောင်းအောင်၊ အလားအလာတွေကောင်းအောင် စွမ်းဆောင်ပေးနိုင်တယ်လို့ ဆိုပါတယ်။ ပြီးတော့ မင်းဟာ နံပါတ်သုံးခုကို ရွေးယူဖို့ စွမ်းဆောင်နိုင်လိမ့်မယ်လို့လည်း အာမခံပါတယ်။ ဒါပေမဲ့ စဉ်းစားစရာကောင်းတာက သူပြောတဲ့အတိုင်းသာ အမှန်တကယ် ဖြစ်ခဲ့လို့ရှိရင် သူကိုယ်တိုင်ကျတော့ ဘာကြောင့် သန်းကြွယ်သူဌေးတစ်ဦး ဖြစ်မလာရတာလဲ။ သူ့ရဲ့ လာဘ်ခေါ် လက်ဖွဲ့တွေသာ တကယ်အလုပ် လုပ်တယ်၊ စွမ်းတယ်ဆိုရင် သူ့အနေနှင့် ဘာကြောင့် ထီအကြိမ်ကြိမ် မပေါက်ရတာလဲ။ သူ ကံကောင်းတာဆိုလို့ သူ့ မှော်လက်ဖွဲ့တွေကို မိုက်မဲစွာ ဝယ်ယူအားပေးနေကြတဲ့ ဖောက်သည်တွေ ရှိနေသေးတာ တစ်ခုလောက်ပဲ ရှိပါတယ်။

မေး။ ။ ကဲ ဒါဆိုရင်၊ ကံကြောင့် ဖြစ်တာ၊ ကံကောင်းတာဆိုပြီး ပြောလို့ရနိုင်တဲ့ အရာများကော ရှိပါသေးသလား။

ဖြေ။ ။ ကံကောင်းခြင်း (Luck) ဆိုတဲ့ ဝေါဟာရကို "ပုဂ္ဂိုလ်တစ်ဦး တစ်ယောက်အတွက် အကောင်း၊ အဆိုး ဘာပဲဖြစ်ဖြစ် ဖြစ်သမျှအကြောင်း တရားကတော့ ကံပဲ၊ ဒါဟာ ကံအလှည့်အပြောင်းကြောင့် ဖြစ်ရတာ၊ ကြမ္မာကိုယ်က ညှိုးလို့၊ လန်းလို့ ဖြစ်ရတာလို့ချည်းပဲ တသမတ်တည်း ယူဆတဲ့ ယုံကြည်မှု" လို့ အဘိဓာန်က ဖွင့်ဆိုပါတယ်။

ဗုဒ္ဓကတော့ ဒီလို ကံယုံဝါဒမျိုးကို အပြတ်အသတ်၊ ပယ်ချတော်မူခဲ့တယ်။ အရာရာတိုင်းမှာ အဲဒီအရာ ဖြစ်ပျက်ဖို့ရန်အတွက် တိကျတဲ့အကြောင်း တရားတစ်ခုဒါမှမဟုတ် အကြောင်းတရားတွေ အများအပြားရှိပြီးတော့ အဲဒီ အကြောင်းတရားနှင့် အကျိုးတရားဟာ ဆက်စပ်နေတာပဲ (အကြောင်းကင်းပြီး ဖြစ်တယ်ဆိုတာကို မရှိဘူး) လို့ မိန့်တော်မူခဲ့ပါတယ်။ ဥပမာပြောရရင် နေထိုင်မကောင်း၊ မအီမသာဖြစ်လာတယ်ဆိုရင် အဲဒီလိုဖြစ်ရအောင် လုံလောက်တဲ့ အကြောင်းတရားရှိတယ်။ လူ့ ခန္ဓာကိုယ်နှင့် ရောဂါပိုးတွေ ထိတွေ့မှု ရှိရမယ်၊ ရောဂါပိုးတွေ ဝင်ရောက်ပြီး ခြေကုပ်ယူနိုင်လောက်အောင်

ခန္ဓာကိုယ်အားနည်းနေတာ ဖြစ်ရမယ်။ (အဲဒီ အခြေအနေမှာ နေထိုင် မကောင်းဘူးဆိုတာ ဖြစ်လာတာပါပဲ)။ အဲဒီဖြစ်စဉ်မှာ ရောဂါပိုးတွေ ဝင်ရောက်လာမှု၊ ခန္ဓာကိုယ် အားနည်းနေမှုဆိုတဲ့ အကြောင်းတရားနှင့် နေထိုင်၊ မကောင်းဖြစ်မှုဆိုတဲ့ အကျိုးတရားတို့အကြားမှာ တိကျတဲ့ ဆက်စပ်မှု ရှိနေပါတယ်။ ဘာကြောင့်လဲဆိုတော့ ရောဂါပိုးတွေဟာ ခန္ဓာကိုယ်ထဲ ဝင်ရောက်လာပြီးနောက် မူလကတည်းက ခန္ဓာကိုယ်ထဲမှာ ရှိနေတဲ့ ရောဂါပိုးစံနစ် အဏုဇီဝရုပ် (Cell) တွေကို တိုက်ခိုက်တယ်၊ ဒီတိုက်ပွဲကြောင့် နေထိုင်မကောင်းခြင်းဆိုတာ ဖြစ်လာရခြင်းဖြစ်တယ်လို့ သိထားလို့ပါပဲ။

ဒါပေမဲ့ စာကြောင်းသေးသေးလေးတွေ ရေးထားတဲ့ စက္ကူစလေးတွေကို ဝတ်သင်တာ (ဆောင်တာ) နှင့်ပဲ ချမ်းသာလာတယ်၊ စာမေးပွဲအောင်တယ်ဆိုတဲ့ ဖြစ်စဉ်နှစ်ခုအကြားမှာတော့ ဘယ်ဆက်စပ်မှုကိုမှ ရှာမတွေ့နိုင်ဘူး။ ဗုဒ္ဓဝါဒရဲ့ အဆိုကတော့ အကြောင်းတရားတစ်ခုက ဒါမှမဟုတ် အကြောင်းတရား အများအပြားက အကျိုးတရားတစ်ခုကို ဖြစ်ပေါ်စေတာပဲ ဖြစ်တယ်။ ကံရယ်၊ အခွင့်အလမ်းရယ်ဆိုတာတွေကြောင့် ဖြစ်လာတာမဟုတ်ဘူး။ ကံကောင်းတယ်ဆိုတာကို စိတ်ပါဝင်စားသူတွေက ငွေတွေ၊ စည်းစိမ်၊ ဥစ္စာတွေ တစ်ပုံတစ်ခေါင်းကြီး ရယူနိုင်ရေးအတွက်ချည်း အစဉ်သဖြင့် လုံးပမ်းနေကြတယ်။ ဗုဒ္ဓကတော့ နှလုံးသားနှင့် စိတ်ဓါတ်တိုးတက်ဖို့ကသာ ပို အရေးကြီးကြောင်း မိန့်မြွက်တော်မူခဲ့ပါတယ်။ ဗုဒ္ဓမိန့်မြွက် တော်မူတာက–

> "နူတ်မှု၊ လက်မှုတို့၌ လေးနက်စွာသင်ယူ၍ ကောင်းစွာ ကျွမ်းကျင်တတ်မြောက်ခြင်း၊ ကောင်းစွာ ကျင့်ဆောင်ခြင်း၊ ကောင်းမွန်စွာ ပြောဆိုဆက်ဆံခြင်းတို့သည် အကောင်းဆုံးသော ကြီးပွားကြောင်း မင်္ဂလာဖြစ်ပေ၏။"

> "အမိ၊ အဘတို့အား ပြုစုလုပ်ကျွေးခြင်း၊ သားမယားတို့အား ချီးမြှောက်ထောက်ပံ့ခြင်း၊ အပြစ်မဲ့သော အသက်မွေးခြင်းတို့သည်လည်း ကြီးပွားကြောင်း မင်္ဂလာမည်ပေ၏။"

> "ပေးကမ်း၊ ချီးမြှင့်ခြင်း၊ တရားသဖြင့် ကျင့်ဆောင်ခြင်း၊ ဆွေမျိုးဉာတိတို့အား ကူညီစောင့်ရှောက်ခြင်း၊ အပြစ်ကင်းမဲ့သော အပြုအမူတို့ကိုသာ လုပ်ဆောင်လေ့ရှိခြင်းတို့သည်လည်း ကြီးပွားကြောင်း မင်္ဂလာမည်ပေ၏။"

"မကောင်းမှုတို့မှ ကင်းဝေးအောင် ရှောင်ကြည်ခြင်း၊ အရက်သေစာ သောက်စားမှုတို့၌ အလေ့အထမပြုခြင်း၊ တရားသဘောတို့၌ မမေ့ မလျော့ခြင်းတို့သည်လည်း ကောင်းမြတ်သော ကြီးပွားကြောင်း မင်္ဂလာမည်ပေ၏။"

"သူတော်တို့၌ ရိုသေလေးစားသမှုပြုခြင်း၊ ကိုယ့်ကိုကိုယ် နှိမ့်ချစွာ ပြုမူတတ်ခြင်း၊ ရောင့်ရဲလွယ်ခြင်း၊ သူ့ကျေးဇူးကို သိတတ်ခြင်း၊ အခါအားလျော်စွာ တရားနာယူလေ့ရှိခြင်းတို့သည် ကောင်းမြတ်သော ကြီးပွားကြောင်း မင်္ဂလာတို့ပေတည်း။"[၁]

၁။ သုတ္တနိပါတ ၂၁၆-၂၆၅

## ဗုဒ္ဓဘာသာဝင်ကောင်းတစ်ဦး

မေး။ ။ အခု ဆွေးနွေးခဲ့တဲ့ အကြောင်းအရာတွေ အားလုံး စိတ်ပါဝင်စားစရာတွေ ချည်းပါပဲ။ ဗုဒ္ဓဘာသာဝင်ကောင်းတစ်ဦး ဘယ်လိုလုပ်ပြီး ဖြစ်လာနိုင်တယ် ဆိုတာလည်း ရှင်းလင်းစမ်းပါဦး။

ဖြေ။ ။ ဗုဒ္ဓလက်ထက်တော်တုန်းက ဥပါလိဆိုတဲ့ ပုဂ္ဂိုလ်တစ်ဦး ရှိခဲ့တယ်။ (တစ်နေ့မှာ) ဘာသာခြားတစ်ဦးဖြစ်တဲ့ အဲဒီပုဂ္ဂိုလ်ဟာ ဗုဒ္ဓနှင့် ဝါဒချင်းယှဉ်ပြိုင် အနိုင်ယူပြီး ဗုဒ္ဓအား သူကိုးကွယ်တဲ့ ဘာသာ[၁]သို့ စည်းရုံး၊ သွတ်သွင်းရအောင်ဆိုပြီး ဗုဒ္ဓ အထံတော်သို့ ရောက်ရှိလာခဲ့ပါတယ်။ ဒါပေမဲ့ အဲဒီလို ဆွေးနွေးပြီးတဲ့နောက်မှာတော့ ဗုဒ္ဓအပေါ် သိပ်ကြည်ညိုလေးစားသွားတာကြောင့် ချက်ချင်းပဲ သူဟာ ဗုဒ္ဓသာဝကတစ်ဦးအဖြစ် ခံယူဖို့ ဆုံးဖြတ်လိုက်ပါတယ်။ ဗုဒ္ဓက –

"သင့်တော်တဲ့ စုံစမ်း၊ လေ့လာမှုကို ပြုပြီး၊ သင့်လိုထင်ရှားတဲ့ ပုဂ္ဂိုလ်တစ်ဦးအဖို့ စူးစမ်းဆင်ခြင်ပြီးမှ ဆုံးဖြတ်လုပ်ကိုင်သင့်တယ်" လို့ မိန့်တော်မူလိုက်တယ်။

"အရှင်ဂေါတမ၊ သင့်လျော်တဲ့ စူးစမ်းဆင်ခြင်မှုကို ပြုပါဦးလို့ မိန့်တော်မူတဲ့ အတွက်ကြောင့်လည်း အကျွန်ုပ်အနေနှင့် အလွန့် အလွန်မှပဲ ထပ်လောင်း၍ နှစ်ထောင်းအားရ ဖြစ်ရပါသေးတယ်။ တခြား တခြားသော ဘာသာရေးဂိုဏ်း ဆရာကြီးတွေကတော့ အကျွန်ုပ်လို လူကိုသာ တပည့်အဖြစ် သိမ်းသွင်းနိုင်မယ်ဆိုရင် ဥပါလိဟာ ငါတို့ရဲ့တပည့်ဖြစ်လာပြီဆိုပြီး တမြို့လုံးအနှံ့ ကြွေးကြော်ကြမှာ မလွဲပါပဲ။ ဒါပေမဲ့ ဒီနေရာမှာတော့ အရှင်ဂေါတမက သင့်လျော်တဲ့ စုံစမ်းဆင်မှုကို ပြုဦးလော့၊ သင့်လို ထင်ရှားသူအဖို့ စူးစမ်းဆင်ခြင်မှု ပြုပြီးတော့မှ လုပ်ခြင်းဟာ ကောင်းတယ်လို့ ဆိုဖေါ်ရသေးတယ်[၂]" လို့ ဥပါလိ လျှောက်ထားပါတယ်။

---

၁။ ဂျိန်းဘာသာ

၂။ ဥပါလိသုတ္တ ၃၇၉

